# ဓမ္မဒူတ အရှင်ပညိဿရ

(ဓမ္မာစရိယ၊ ဘီအေ ၊ အမ်အေ)





# တရားမရခြင်းအကြောင်းရင်း

design: Lin Aung Pyae

# တရားမရခြင်း အကြောင်းရင်း


ဓမ္မဒူတ အရှင်ပညိသာရ

မဟာစရိယ - ဘီအေ - အမ်အေ

စာမူခွင့်ပြုချက်အမှတ် - ၈၈ / ၂၀၀၂ (၂)
မျက်နှာဖုံးခွင့်ပြုချက်အမှတ် - ၁၇၄ / ၂၀၀၂ (၃)

ပုံနှိပ်ခြင်း
ပထမအကြိမ်

အုပ်ရေ
၁၀၀၀

ထုတ်ဝေသူ
ဦးထွန်းထွန်းဦး (၅၀၃)
နှင်းဦးလွင် စာပေ
၅၃၃ - ဆော၊ ၈ - ရပ်ကွက်၊ ပြည်လမ်း၊ ရန်ကုန်

မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်
သိန္ဓုမြိုင် ပုံနှိပ်တိုက်
ဦးဝင်းမြိုင် (၀၂၄၈၆)
၁၁၃၊ ၃၄-လမ်း၊ ကျောက်တံတား

ဖြန့်ချိရေး
အမှတ် - ၈၉၊ ၅၂-လမ်း (လယ်)၊
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့၊
ဖုန်း - ၂၉၉၅၇၄၊ ၂၅၃၅၁၈

တန်ဖိုး

# “စကားဦး”

မိမိကိုယ်တိုင် အားထုတ်စဉ်
ကိုယ်တွေ့ကြုံခဲ့ရသော အတွေ့အကြုံများ၊
ဆယ်နှစ်ကျော်ကာလ
တရားပြသက်တမ်းတစ်လျှောက်
မြင်ရ ကြားရ သိခဲ့ရသော
ယောဂီသူတော်စင်တို့၏
တရားအားထုတ်ချိန်ကာလဖြစ်စဉ်များအရ
တရားမရခြင်း အကြောင်းရင်းကို
အလွယ်တကူ သိရှိဖယ်ရှားနိုင်အောင်
ဒီစာအုပ်ကို ရေးသားပါတယ်။

ဓမ္မဒူတ–အရှင်ပညိဿရ
ဓမ္မာစရိယ၊ ဘီအေ၊ အမ်အေ
ဂဏဝါစက၊ နာယက၊ ကမ္မဋ္ဌာနာစရိယ
ဓမ္မဒူတတောရ၊ တောင်စွန်း
ဘီးလင်းမြို့နယ်၊ မွန်ပြည်နယ်
ဖုန်း– ၀၃၅–၇၀၀၁၀

## ဓမ္မဒူတ အရှင်ပညီသာရ

၁၉၆၄-ခုနှစ်၊ ဇန်နဝါရီလ (၂၃)ရက်၊ ကြာသပတေးနေ့တွင် သထုံမြို့၊ ညောင်ပိုင်းရပ်၌ ဦးကျော်လှိုင်၊ ဒေါ်မြင့်ကြည်တို့မှ မွေးချင်းငါးယောက် အနက် သားဦးအဖြစ် ဖွားမြင်သည်။

**သထုံမြို့၌** အခြေခံပညာအထက်တန်း ဖြေဆို **ပြီးနောက်** ၁၉၈၁-ခုနှစ်တွင် ကျေးဇူးတော်ရှင် ဓမ္မ-**ဒူတဆရာတော်ကြီး** ဘဒ္ဒန္တ ပညာဇောတ (အဂ္ဂ-**မဟာ သဒ္ဓမ္မ** ဇောတိကဓဇ)ကို ဥပဇ္ဈာယ်ပြုကာ **ဆရာတော်၏** ပစ္စယာနုဂ္ဂဟ မေတ္တာနုဂ္ဂဟဖြင့် သာ-သနာ့ဘောင်သို့ စတင်ဝင်ရောက်သည်။

ရှင်သာမဏေဘဝမှ စတင်ကာ မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ တောင်စွန်း ဓမ္မဒူတတောရတွင် ပဋိပတ္တိနှင့်တွဲဘက်ပြီး ပရိယတ္တိစာပေများကို ပထမကြီးတန်း အောင်မြင်သည်အထိ သင်ယူခဲ့သည်။ အထက်တန်း ဝိဇ္ဇာစာပေများကို မန္တလေး၊ ပခုက္ကူ၊ စစ်ကိုင်းတို့တွင်လည်းကောင်း၊ သီရိလင်္ကာနိုင်ငံနှင့် အိန္ဒိယနိုင်ငံရှိ တက္ကသိုလ်တို့တွင် လည်းကောင်း ဆက်လက် သင်ယူခဲ့သည်။

၁၉၈၈- မန္တလေးတက္ကသိုလ်မှ (BA-မြန်မာစာဘွဲ့)
၁၉၈၉- သာသနဓဇသီရိပါလဓမ္မာစရိယဘွဲ့
၁၉၉၀- သာသနဓဇ ဓမ္မာစရိယဘွဲ့
၁၉၉၃- သီရိလင်္ကာနိုင်ငံမှ MA (Buddhism)ဘွဲ့
၁၉၉၉- သာသနဟိတဂဏဝါစက အာစရိယဘွဲ့

-စသည်တို့ကို ရရှိခဲ့သည်။

၂၀၀၁-ခုနှစ်မှ စတင်ကာ Ph.D.(Buddhism) ပေါက်တာဘွဲ့အတွက် သုတေသနများ၊ ကျမ်းစာများကို ရေးသားပြုစုလျက်ရှိသည်။

(၈)

ယခုအခါတွင် တောင်စွန်း၊ ဓမ္မဒူတ တောရကျောင်းတိုက်၌ သီတင်းသုံးကာ ဂဏဝါစကနာယက ကမ္မဋ္ဌာနာစရိယအဖြစ် တာဝန်ယူ ဆောင်ရွက်ရင်း စာပေပို့ချခြင်း၊ စာပေရေးသားခြင်း၊ တိုင်းနှင့် ပြည်နယ်အသီးသီးရှိ ဓမ္မဒူတတရားစခန်းများ၊ တရားပွဲများသို့ ကြွရောက် ဟောပြော ပြသခြင်းတို့ဖြင့် သာသနာ့တာဝန်များ ထမ်းဆောင်လျက်ရှိပါသည်။

ဆရာတော်

မမွဒူတ - အရှင်ပညိသာရ

၏

ရေးသားပြီးစာအုပ်များ

၁။ ဘာသာမဲ့သူလေး (ရိုက်ပြီး)
၂။ အပါယ်တံခါး ပိတ်ထားကြစို့ (ရိုက်ပြီး)
၃။ လမ်းညွှန်တရား ဆောင်ပုဒ်များ (ရိုက်ပြီး)
၄။ တရားနဲ့ နေပါ (ရိုက်ပြီး)
၅။ တရားမရခြင်း အကြောင်းရင်း

ဆက်လက်ထုတ်ဝေမည့် စာအုပ်များ

၁။ ကြည့်တတ်ရင် တရားဖြစ်တယ်
၂။ သံယောဇဉ် ဆိုသည်မှာ
၃။ လောကဓံနဲ့ ကြုံလာရင်

# ပူဇော်နိုင်ပါသည်

ဆရာတော်၏ တရားစာအုပ်များ၊ တရားတိတ်ခွေများ၊ စီဒီတရားခွေများကို ရန်ကုန်မြို့ လသာလမ်း၊ အမှတ်(၈၄)ရှိ "အာရုံတိတ်ခွေ၊ စီဒီ အရောင်းဆိုင်" (ဖုန်း-၂၄၆၂၇၀ နှင့် ၂၅၃၅၁၈) တွင် ပူဇော်နိုင်ကြပါသည်။

# "တရားမရခြင်း အကြောင်းရင်း"

## တရားအမည်

၁၃၆၁-ခုနှစ်၊ တော်သလင်းလဆန်း (၁၀)ရက်နေ့တွင် မွန်ပြည်နယ်၊ ဘီးလင်းမြို့နယ်၊ တောင်စွန်းဓမ္မဒူတတောရ၌ ကျင်းပအပ်သော ဓမ္မာနုပဿနာ သတိပဋ္ဌာန် ဆယ်ရက် တရားကျင့်သုံးပွဲ၌ အင်္ဂုတ္တရနိကာယ်၊ ပဉ္စကနိပါတ် သင်္ဂါရဝသုတ္တန်ကို အခြေခံကာဟောကြားအပ်သော"တရားမရခြင်းအကြောင်းရင်း" အလုပ်ပေးတရားတော်လို့ တရားအမည်ပေး ပြီးဟောကြ နာကြရအောင်။

ဒီသုတ္တန်မှာ ဘုန်းကြီးတို့ပရိသတ် တရားအားထုတ်ကြတဲ့နေရာမှာ ရချင် လိုချင်ကြတဲ့ ဈာန် မဂ်ဖိုလ်တရားတွေ မရနိုင်အောင် အနှောင့်အယှက်

ပေးတတ်တဲ့ သဘောတရားတွေကို မြတ်စွာဘုရား ဟောကြား ရှင်းလင်းထားတာမို့ "တရား မရခြင်း အကြောင်းရင်း"လို့ အမည်ပေးထားပါတယ်။

## ဘုရားရှိခိုး

တရား မဟောမီ, တရား မနာမီမှာ ရှေးဦးစွာ တရားတော်ကို ဟောကြားတော်မူခဲ့တဲ့ အစိန္တေယျ သုံးလောကထွတ်ထား မြတ်စွာဘုရားကို ရှိခိုးပူဇော် ကြရအောင်။ ။ အားလုံး လက်အုပ်ချီကာ အာရုံယူ ထားလိုက်ပါ။

### "အဝန်းသုံးပါး ဘုရားရှိခိုး"

တိမဏ္ဍလေ စရံ သံဃ၊ နက္ခတ္တ ပရိဝါရိတံ။
သဒ္ဓမ္မသီတလောဘာသ၊ ဇနသန္တာပ နာသကံ။
ပညာစက္ခုကရံ ပူဇေ၊ ဗုဒ္ဓပုဏ္ဏိန္ဒုမဏ္ဍလံ။

သံဃနက္ခတ္တပရိဝါရိတံ-အရိယာရှစ်ပါးတပည့် သား သာဝက သံဃာတော်မြတ်အပေါင်းတည်းဟူ သော နက္ခတ်တာရာ ကြယ်တကာတို့ ဝန်းကာပတ်

ခြံ ရံအပ်ပါပေထသော၊ သဒ္ဓမ္မသီတလောဘာသ
ဇနသန္တာပနာသကံ- ဓမ္မက္ခန္ဓာဒေသနာတော်ပေါင်း
ရှစ်သောင်း လေးထောင် အေးမြချမ်းကြည်သော
တရားရောင်တို့ဖြင့် များမြောင်လှစွာ ဆယ့်တစ်ဖြာ
ငြီး လောင်သည့်မီးကို အပြီးတိုင်ပယ်ဖျောက်တော်
မူတတ်ပါပေထသော၊ ပညာစက္ခုကရံ- လေးရပ်
သစ္စာ နက်နဲစွာသား ကောင်းစွာမျှော်ရှု ဉာဏ်ပညာ
စက္ခုကို ပြုတော်မူတတ်ပါပေထသော၊ တိမဏ္ဍလေ
- မဏ္ဍိုလ်တိုက်ထွန်း အဝန်းတွင်မှတ် အလတ်ကျဉ်း
ကျယ် လမ်းသုံးသွယ်၌၊ စရံ စရန္တံ- မြင့်မိုရ် နှိုင်းရာ
ဗောဓိချာကို ဗဟိုအလယ်ထား ကြွသွားလှည့်လည်
တော် မူတတ်ပါပေထသော၊ ဗုဒ္ဓပုဏ္ဏိန္ဒုမဏ္ဍလံ-
သစ္စာလေးပါး တရားသိမြင် ဘုရားရှင်ဟူ ရောင်ဖြူ
ပထွန်း လပြည့်ဝန်းကို၊ အဟံ- သူတော်သူမြတ် လူ
နှင့်နတ်တို့ ကျေနပ်ရန်မျှော် ဘုရားတပည့်တော်
သည်၊ ပူဇေ ပူဇေမိ- ကိုယ်နှုတ်နှလုံး သုံးပါးပျောင်း
ပျော့ မာန်ကိုလျော့၍ ကန်တော့မြတ်နိုး လက်အုပ်
မိုးကာ ရှိခိုးဦးညွတ်ပါ၏။ မယံ- တရားဟောပုဂ္ဂိုလ်
တရားနာပုဂ္ဂိုလ် ခေါ်ဆိုသမုတ် အကျွန်ုပ်တို့သည်၊
ပူဇေ ပူဇေမ- မင်္ဂလာ စရဏ လက်ဦးစ၌ ကြည်စွ

ကော်ရော် ပူဇော်မြတ်နိုး လက်အုပ်မိုးကာ ရှိခိုး ဦးညွှတ်လိုက်ကြပါကုန်၏ မြတ်စွာဘုရား။

သာဓု၊ သာဓု၊ သာဓု။

❖ ❖ ❖

## တရားရှာကြတယ်

ဘုန်းကြီးတို့ပရိသတ် - တရား အားထုတ်ကြတယ်၊ တရား ရှာကြတယ်ဆိုတာ တရား လိုချင် ရ ချင်ကြလို့။ ဒါပေမယ့် တချို့က တရားသာ အားထုတ်နေကြတယ်၊ လိုချင်နေကြတယ်၊ "ဘယ်တရားကို လိုချင်တာလဲ၊ ဘာလို့ တရားအားထုတ်ကြတာလဲ"ဆိုရင် မဖြေတတ်ကြဘူး ဖြစ်နေကြတယ်။

အဲဒီတော့ အားလုံးသောပရိသတ် မှတ်ထားပါ။ တရား ရှာတယ်ဆိုတာ မဂ်တရား၊ဖိုလ်တရား၊ နိဗ္ဗာန်တရားကို သိမြင်အောင် အားထုတ်တာပါ။ ရှာဖွေတာပါ။ တရား ရတယ်ဆိုတာ မဂ်ဖိုလ် နိဗ္ဗာန်တရားသဘောတွေကို ကိုယ့်ဉာဏ်နဲ့ သိမြင် သွားတာပါ။

# ပယ်သင့်တာပယ်

တရားရအောင် ကျင့်ကြံကြိုးစား အားထုတ်ကြရာမှာ ပယ်သင့်ပယ်ထိုက်တာတွေ ပယ်ရပါတယ်။ ဖြည့်သင့်ဖြည့်ထိုက်တာတွေ ပြည့်စုံအောင် ဖြည့်ကျင့်ရပါတယ်။ အားထုတ်ဆိုလို့သာ အားထုတ်နေပြီး ဘာမှ သိမထားဘဲ ရမ်းသန်းအားထုတ်နေလို့ အချိန်ကုန်ရုံ ပင်ပန်းရုံပဲရှိမယ်။ တရားရဖို့ မလွယ်ပါဘူး။

ဒီနေ့ ဘုန်းကြီး အဓိကထားဟောမှာက-တရားအားထုတ်ချိန်မှာ ကျိန်းသေဧကန် ဝင်ရောက်လာမယ့် အနှောင့်အယှက်တွေကို သိထားပြီး ပယ်ရှားနိုင်ဖို့ပါ။ ပယ်ရမယ့်တရားတွေကို သိထားကြဖို့ပါ။ အဲဒီ အနှောင့်အယှက်တွေ ရှိနေရင် မပယ်နိုင်ရင် တရားမရနိုင်ကြလို့ "တရားမရခြင်း အကြောင်းရင်း" လို့ ပြောရတာပါ။

## တရားမရခြင်းသည်

စျာန် မဂ် ဖိုလ်တွေကို မရရှိအောင် မသိမြင်အောင် တားဆီးပိတ်ဆို့နေကြတာက နီဝရဏတရားတွေပါ။ တရားမရအောင်၊ တရားအားထုတ်လို့ မရ

မှတ်မိအောင် လိုက်ဆိုကြည့်ပါ။

လောက်အောင် နှောင့်ယှက်နေတာ နီဝရဏတွေ ပါ။ ရှုမှတ်နေတဲ့ တရားတွေ ရှုရင်း ရှုရင်းနဲ့ ဘယ် ရောက်သွားမှန်း မသိအောင် ပျောက်သွားတဲ့အထိ ဖုံးအုပ်လိုက်တာဟာ နီဝရဏတွေပါ။ မရှုချင်မမှတ် ချင် အားမထုတ်ချင်အောင် တုံ့ဆိုင်းသွားစေတာ ဟာလည်း နီဝရဏတရားတွေပါပဲ။ အသိဉာဏ်တွေ ကို ထုံထိုင်းသွားစေတာလည်း နီဝရဏတွေပါပဲ။ အလွယ်နဲ့ မှတ်မိအောင် ဘုန်းကြီး လက်ာလေးနဲ့ တိုင်ပေးပါမယ်။ လိုက်ဆိုကြည့်ပါ။

## *ဈာန်မဂ်ဖိုလ်မြတ် ပိတ်ဆို့တတ် ခေါ်မှတ်နီဝရဏ။

တရားမရခြင်းသည် ဈာန်တရား၊ မဂ်တရား၊ ဖိုလ်တရားတွေကို ကြိုးစားပမ်းစား အားထုတ်နေပါ လျက်နဲ့ မရခြင်းသည် နီဝရဏကြောင့်ပါ။

## သင်္ဂါရဝပုဏ္ဏားကို ဟော

ဒီနေ့ ဘုန်းကြီး မူတည်ထားပြီး ဟောမှာက သင်္ဂါရဝသုတ္တန်ကိုပါ။ဗုဒ္ဓမြတ်စွာ သာဝတ္ထိပြည် ဇေတဝန်ကျောင်းတိုက်မှာ သီတင်းသုံးတော်မူနေ စဉ်မှာ သင်္ဂါရဝအမည်ရတဲ့ပုဏ္ဏားကြီးတစ်ယောက်

ကို ပြောခဲ့ပါတယ်။ ပြဟ္မဏမျိုးနွယ် သင်္ဂါရဝပုဏ္ဏား ကြီးဟာ စာပေပညာရှင်ကြီးတစ်ယောက်၊ ပြဟ္မဏ စာပေကျွမ်းကျင်တဲ့ အသိပညာရှင်ကြီးတစ်ယောက် ဖြစ်ပုံရပါတယ်။ အမြဲတမ်း စာတွေပေတွေကို ကျက် မှတ်လေ့လာနေသူလည်း ဖြစ်မှာပါ။ သူကိုယ်တိုင် မဖြေရှင်းနိုင်အောင် ဖြစ်နေတဲ့ပြဿနာကို မြတ်စွာ ဘုရားထံမှောက် လာရောက် မေးလျှောက်လို့ မြတ် စွာဘုရားက ရှင်းလင်းဟောကြားပေးခဲ့တာပါ။

## စာတွေ မေ့သွား

စာပေတွေကို လေ့လာဆည်းပူးနေတဲ့ သင်္ဂါရဝ ပုဏ္ဏားကြီးမှာ ပြဿနာနဲ့ ရင်ဆိုင်နေရပါသတဲ့။ နှစ် ပေါင်းများစွာ ကျက်မှတ်လာတဲ့စာတွေ၊ နေ့တိုင်းလို လို ရွတ်ဆိုနေတဲ့စာတွေဟာ တစ်ခါတလေမှာ ပြန် စဉ်းစားလို့ မရလောက်အောင် မေ့နေတယ်။ အစ အနတောင်ရှာမရအောင် ပျောက်နေတယ်။ မကျက် မမှတ်ဘဲ ပစ်ထားသလားဆိုတော့ မဟုတ်ဘူးနော်။ အမြဲလိုလို ရွတ်ဆိုနေတာ။ အလွတ်ကို ရနေတာ။ နေ့တိုင်းလိုလို ရွတ်ဆိုလာခဲ့တာ တစ်နေ့ တစ်ရက် မဟုတ်ဘူး၊ တစ်လ နှစ်လ မဟုတ်ဘူး၊ နှစ်ပေါင်း

များစွာ။ ဒါတောင်မှ တစ်ခါတလေ မေ့နေတယ်။ စဉ်းစားလို့မရအောင် မေ့နေတယ်။ ရှေးကရပြီးသား စာတွေ မေ့ကုန်တဲ့ပြဿနာ။

တစ်ခါတလေ ဘုန်းကြီးတို့ပရိသတ်လည်း ဖြစ်တတ်တယ်။ လုပ်နေကြအလုပ်တွေ လုပ်ရမှာ မေ့တယ်။ ကွဲကွာနေတဲ့ လူတစ်ယောက်. . ဟိုက တရင်းတနှီး နှုတ်ဆက်တယ်။ ကိုယ့်မှာ မေ့လိုက်တာ "ဘယ်သူပါလိမ့်၊ ငါ သိပါတယ်၊ ရင်းရင်းနှီးနှီးကို သိပါတယ်၊ ဘယ်သူဖြစ်မလဲ"လို့ စဉ်းစားလို့ မရဘူး။ အချိန်တွေအကြာကြီး ပေါင်းခဲ့သူတရင်းတနှီး နေခဲ့သူတွေကို မေ့သွားတယ်။ ဘုန်းကြီးတို့ပရိသတ်ထက် ပုဏ္ဏားကြီးက ဆိုးနေတာ။ ကျက်နေရင်း မှတ်နေရင်းနဲ့ကို မေ့မေ့သွားတယ်တဲ့။

## စာတွေ ပြန်ပေါ်လာ

တစ်ခါတစ်ခါကျတော့ မစဉ်းစားဘဲနဲ့ကို အာရုံမပြုဘဲနဲ့ကို ဖျတ်ခနဲ ဖျတ်ခနဲ ပြန်ပြန်ပေါ်လာတယ်။ မကျက်မမှတ်ဘဲ နှစ်ပေါင်းများစွာ ပစ်ထားတာတွေ၊ မလေ့လာဖြစ်တာတွေ ပြန်ပြန်သတိရလာတယ်။

ဘုန်းကြီးတို့ ပရိသတ်လည်း ဖြစ်ဖူးပါတယ်။ ဟိုးငယ်ငယ်က အကြောင်းအရာတွေ နှစ်ပေါင်းများစွာ ကြာခဲ့ပြီ။ အဖြစ်အပျက်တွေကဖြစ်ပြီးသွားတာ ကြာလှပြီ။ မတွေးတော့ဘူး၊ ပြန်လည်း မစဉ်းစားဘူး။ ဒါပေမယ့် ပြန်သတိရတယ်။ ငယ်ငယ်က ကျက်မှတ်ထားတာတွေ အကြောင်းတိုက်ဆိုင်တော့ ပေါ်လာတယ်။ အပြင်းအထန် မစဉ်းစားရဘူး။ လို အပ်ချိန်မှာ ငိုးခနဲ့ရွှေါက်ခနဲ ပြန်ပေါ်လာတဲ့အထိ ကို မှတ်မိနေတယ်။ စာတွေ ပြန်သတိရတယ်။

ငယ်ပေါင်းတွေအကြောင်း ပြန်သတိရတယ်။ ငယ်စဉ်က အကြောင်းတွေကိုတောင် ခုမှ ဖြစ်သလို ကို ထင်ထင်ရှားရှား မှတ်မိနေတာမျိုးပေါ့။

## ပြဿနာနဲ့လာ

သင်္ဂါရဝပုဏ္ဏား ပြဿနာနဲ့ ရောက်လာတာ။ ပြဿနာတွေ မေးချင်လို့ လာခဲ့တာ။ ရှေးက ရပြီး သားတွေ ကျက်မှတ်နေရဲ့သားနဲ့ ပျောက်ကုန်မေ့ ကုန်တာက တစ်မျိုး၊ အမှတ်မထားပေမယ့် တစ်ခါ တစ်ခါ မမေ့မပျောက် မှတ်မိနေတာက တစ်မျိုး၊ ဘာတွေကြောင့် ဖြစ်နေရတယ်ဆိုတာကို သူ မသိ

ဘူး။ သူ တတ်ထားတဲ့ပညာတွေနဲ့မဖြေရှင်းနိုင်ဘူး။ လက်လှမ်းမမီနိုင်အောင် ခက်နေတယ်။ "ရဟန်းဂေါတမကို မေးကြည့်အုံးမှပဲ။ သူ သိများသိမလား၊ ဆွေးနွေးကြည့်မယ်"လို့ ဇေတဝန်ကျောင်းတော်ကို ရောက်လာပါတယ်။

ပညာရှင်တစ်ယောက်နေနဲ့ ပညာ လိုချင်လို့ လာတာ။ ဗုဒ္ဓဘာသာဝင် ဟုတ်ပုံမရပါဘူး။ မြတ်စွာဘုရားကို ရှိခိုးတယ်လို့ စာထဲမှာ မပါဘူး။ သင့်တော်ရာမှာ နေပြီး မေးမြန်းတယ်။

**"အရှင်ဂေါတမ- တစ်ခါတလေမှာ အချိန်ကာလ ကြာမြင့်စွာ ရွတ်အံကျက်မှတ်ထားတဲ့ စာတွေ မေ့နေတယ်။ ဉာဏ်ထဲမှာ ပေါ်မလာဘူး။ ပစ်ထားတဲ့စာတွေဆို ပိုတောင် ဆိုးသေးတယ်။ ဘယ်လိုမှ စဉ်းစားလို့ကို မရဘူး။ ဘာကြောင့် အဲဒီလို ဖြစ်နေတာလဲ။**

## လူတိုင်းနဲ့ သက်ဆိုင်

ဘုန်းကြီးတို့ပရိသတ်- ဒီသုတ္တန်က ဖြန့်ကျက်ကြည့်ရင် လူတိုင်းနဲ့ဆိုင်တဲ့ တရား။ စာပေပညာရှင်

သင်္ဂါရဝပုဏ္ဏားက မေးတာဆိုတော့ စာပေနဲ့ ပတ်သက်နေတယ်။ စာကျက်ရတဲ့ကျောင်းသားကျောင်းသူတွေနဲ့ တိုက်ရိုက်သက်ဆိုင်တယ်။ စာကျက်လို့ မရတဲ့အကြောင်း၊ စာတွေ မေ့ကုန်တဲ့အကြောင်းကို သိထားရင်၊ ရှောင်ရှားနိုင်ရင် စာပေလေ့လာနေတဲ့ သူတွေ၊ ကျောင်းသားကျောင်းသူတွေမှာ စာပေ ထူးချွန်လာကြမှာဘဲ။

ကုသိုလ် လိုချင်တဲ့သူတွေဘက်က ကြည့်ရင် ကုသိုလ် မရကြောင်း၊ ကုသိုလ် မဖြစ်ကြောင်းပေါ့၊ အရောင်းအဝယ်လုပ်တဲ့သူတွေ၊ စီးပွားရှာတဲ့သူတွေ အနေနဲ့ဆို စီးပွားပျက်ကြောင်း၊ စီးပွားဆုတ်ယုတ်ကြောင်းတွေပေါ့။

ဘုန်းကြီးတို့ ယောဂီတွေလို တရားရှာကြသူတွေအတွက်ဆိုရင် တရား မရကြောင်း၊ တရားဆုတ်ယုတ်ပျက်စီးကြောင်းတွေလို့ ပြောရမှာပါ။ ဒါကြောင့် ဘုန်းကြီးက "တရားမရခြင်း အကြောင်းရင်း"လို့ အမည်ပေးထားတာပါ။

## တရားဘက်က ကြည့်

စာပေပညာရှင်ကြီး သင်္ဂါရဝက စာပေဘက်က ကြည့်ပြီး မေးတယ်။ ယောဂီတွေက တရားဘက်က ကြည့်ရမယ်။ တစ်ခါတလေမှာ အရှုခံထားတဲ့ ရုပ်နာမ်တရားတွေ ရှုနေရင်း မှတ်နေရင်း ပျောက်ပျောက်သွားတယ်။ အသေအချာ ဂရုစိုက်အားထုတ်ရင်းနဲ့ကို မေ့ပျောက်သွားတယ်။ ဘယ်ရောက်သွားမှန်း မသိဘူး။ ရှုစိတ်တွေ ပျောက်သွားလိုက်တာ အစအနတောင် မမြင်ရဘူး။

ဒါ ဘာကြောင့် ဖြစ်ရတာလဲ။ သိဖို့ ကောင်းတယ်။ ဂရုစိုက် ရှုမှတ်နေတာတောင် ပျောက်သွားတယ်ဆိုတော့ အမှတ်တမဲ့နေရင် ပိုတောင် ဆိုးမှာပေါ့။ ဖြစ်ချင်ရာဖြစ်ဆိုပြီး ဂရုမစိုက်ရင် ရှုမှတ်စရာတွေ ဘာမှ မတွေ့တော့ဘူး။ ဘယ်လိုမှ အာရုံပြုရှုမှတ်လို့ကို မရဘူး။ တရားအပေါ် စိတ်ကိုမရောက်တော့ဘူး။ ဘာလို့ဖြစ်တာလဲလို့ သိထားရပါမယ်။

## တစ်မျိုးမေးပြန်

သင်္ဂါရဝပုဏ္ဏားကြီးရဲ့ အမေးက နှစ်မျိုးပါ။ ဆက်ပြီး မေးပြန်ပါတယ်။

**“အရှင်ဂေါတမ- တစ်ခါတလေကျတော့ တချို့စာတွေကို မရွတ်အံ့ပါဘူး။ မကျက်မှတ်နေပါဘူး။ မရွတ်အံ့ မကျက်မှတ်ပေမယ့် ဉာဏ်ထဲမှာ ပေါ်ထင်နေပါတယ်။ ပစ်ထားပေမယ့် မမေ့ပျောက်သွားဘူး။ ထင်ထင်ရှားရှား ကို သတိရနေတာ မှတ်မိနေတာ ဘာကြောင့် ပါလဲ။ ကျက်မှတ်နေရင် ပိုလို့တောင် မှတ်မိ နေတာဟာ ဘာကြောင့်ပါလဲ။”**

ဒီဘက်က ကြည့်ရင်တော့ တရားရကြောင်း ပေါ့။ စာတွေ ရနေတဲ့အကြောင်း၊ စာတွေ မမေ့ရတဲ့ အကြောင်း၊ စီးပွားတိုးတက်ကြောင်းလို့ ပြောရမှာ ပေါ့။

သင်္ဂါရဝပုဏ္ဏားကြီး မြတ်စွာဘုရားထံမှောက် ကို ရောက်လာတဲ့အခါမှာ ဆွေးနွေး မေးမြန်းတဲ့ အမေးနှစ်ချက်ပါ။ ပြဿနာနှစ်မျိုးပါ။

# မြတ်စွာဘုရား ဖြေ

ပုဏ္ဏားကြီးအတွက် ရှုပ်ထွေး ခက်ခဲနေတဲ့ ပြဿနာတွေကို မြတ်စွာဘုရားက အလွယ်တကူ

လေး ပြန်ပြီး ဖြေတော်မူပါတယ်။ သိစရာမှန်သမျှ ဘာမှမကျန်အောင် အလုံးစုံ အကုန် သိမြင်တော်မူတဲ့ မြတ်စွာဘုရားက သဗ္ဗညုတ ရွှေဉာဏ်တော်ကြီးနဲ့ ပြန်ပြီးဖြေတော်မူပါတယ်။

အကျဉ်းချုပ် ပြောရရင် "နီဝရဏတရားတွေကြောင့်"လို့ ဖြေတော်မူတာပါ။ အမေးနှစ်ချက်လုံးကို အဖြေ တစ်ခုတည်းနဲ့ ဖြေရှင်းလိုက်တယ်။ နီဝရဏတွေကြောင့်ပါပဲ။

စိတ်ထဲမှာ နီဝရဏတရားတွေ ဝင်ရောက်နှောင့်ယှက်နေတဲ့အချိန်မှာ နှစ်ပေါင်းများစွာ ကျက်မှတ်ထားတာတွေ ပျောက်သွားတယ်။ နီဝရဏတရားတွေ ကင်းရှင်းနေတဲ့အချိန်မှာ မကျက်မမှတ်ဘဲ ပစ်ထားတာတွေတောင် ပြန်ပြီးပေါ်လာတယ်။

အ သေ အ ချာ ကျက်မှတ်နေရင်း စာတွေ ပျောက်တာ နီဝရဏတွေကြောင့်။

ကျက်မှတ်နေရင် စိတ်ထဲ စွဲနေ၊ မကျက်မှတ်ရင်တောင် မမေ့မပျောက် ဉာဏ်ထဲမှာ တည်ရှိနေတာ နီဝရဏတွေ ကင်းနေတဲ့အတွက်ကြောင့်ပေါ့နော်။

❖ ❖ ❖

# "နီဝရဏတရား"

## ပယ်ရမယ့်တရား

ဘုန်းကြီးတို့ပရိသတ် သိသွားပါပြီ။ တရားကြိုးစားရင်းနဲ့ တရား မရနိုင်တာ နီဝရဏကြောင့်။ နီဝရဏတွေကို မပယ်နိုင်ကြလို့။ ပုဏ္ဏားကြီးမှာ နှစ်ပေါင်းများစွာ ကျက်လာတဲ့စာတွေ နီဝရဏ ဝင်နှောင့်လိုက်တော့ ပျောက်သွားတယ်။ ကျက်ရင်းနဲ့မေ့သွားတယ်။ နီဝရဏဝင်လာတော့ ဉာဏ်တွေတုံးကုန်တယ်။ ထုံထိုင်းကုန်တယ်။

တရားအားထုတ်တဲ့သူတွေအတွက်လည်း အတူတူပဲ။ တရားအားထုတ်တယ်ဆိုတာ ဉာဏ်နဲ့ အားထုတ်ရတာ။ နီဝရဏက ဉာဏ်တုံးအောင်လုပ်လိုက်တော့ တရားတွေပျောက်ကုန်တယ်ပေါ့။ ရှိတာလေးတွေတောင် ပျောက်ပါတယ်ဆိုမှ မရသေးတဲ့တရားတွေ ဘယ်မှာ ရပါတော့မလဲ။

နီဝရဏတွေသည် ပယ်ရမယ့်တရား။ ဖြစ်ပေါ်လာရင် ဖယ်ရှင်းပစ်ရမယ့်တရား။

တရားရချင်ရင် နီဝရဏတွေကို ပယ်ရှားနိုင်မှရမယ်နော်။

## နီဝရဏ ငါးပါး

နီဝရဏတရား ငါးပါးရှိပါတယ်။

၁။ ကာမစ္ဆန္ဒ= ကာမအာရုံ၌ လိုလားတပ်မက် သာယာမှု
၂။ ဗျာပါဒ= စိတ်ဆိုးမှု၊အမျက်ထွက်မှု၊မလိုမုန်းတီးမှု
၃။ ထိနမိဒ္ဓ= ငိုက်မျဉ်းထိုင်းမှိုင်းမှု
၄။ ဥဒ္ဓစ္စ ကုက္ကုစ္စ= ပျံ့လွင့်ပူပန်မှု
၅။ ဝိစိကိစ္ဆာ= ယုံမှားသံသယ ဖြစ်မှု

ဒီသဘောတရားငါးမျိုးထဲက တစ်မျိုးမျိုး ဖြစ်ပေါ်လာရင် နီဝရဏ ဝင်လာပြီလို့ သိရပါမယ်။ ကုသိုလ်တရား ဈာန်မဂ်ဖိုလ်တရားတွေဟာ နီဝရဏတွေ ဝင်လာရင် ပျက်စီးသွားပါပြီ။ နီဝရဏဖုံးအုပ်လိုက်ရင် တရားတွေမမြင်တော့ပါဘူး။ ပညာမျက်စိတွေ ကန်းသွားပါပြီနော်။

နီဝရဏတရားတွေဟာ ဈာန်တရား၊မဂ်တရား၊ ဖိုလ်တရားတွေကို ဖြစ်ခွင့်မရအောင် တားမြစ်တတ်ပါတယ်။ ပိတ်ဆို့ထားတတ်ပါတယ်။

ဈာန်တရားကိုတော့ ဖြစ်ခွင့်မပေးရုံတင်မကပါ ဘူး။ ကာမဂုဏ်အာရုံတွေကို လိုလားတပ်မက်တဲ့ ကာမစ္ဆန္ဒနီဝရဏနဲ့ ဗျာပါဒ စိတ်ဆိုးဒေါသတွေက ကြမ်းကြမ်းတမ်းတမ်း ဝင်ရောက်လာတဲ့အခါမှာ ရ ပြီးသား ဈာန်တွေတောင် လျောကျပျက်စီးသွားပါ တယ်။ ကွယ်ပျောက်သွားရပါတယ်။

## ကိုရင်လေး ဈာန်ကစား

ရဟန္တာမထေရ်မြတ်ကြီးကို ပြုစုလုပ်ကျွေးနေ တဲ့ ကိုရင်လေးတစ်ပါးဟာ ငယ်စဉ်မှာပဲ တရားအား ထုတ်ပြီး လောကီဈာန်အဘိညာဉ်ကို ရခဲ့တယ်။ မဟာစေတီတော်ကို ဖူးမြော်ဖို့ ဆရာတပည့်ရောက် ကြတော့ မထေရ်ကြီး ပူဇော်ဖို့ ပန်းတွေကို ကိုရင် လေးက ခူးပေးပါတယ်။ ဟိမဝန္တာကို ဈာန်တန်ခိုးနဲ့ ကြွကြွပြီး ခူးပေးလေ့ ရှိပါတယ်။ မထေရ်ကြီးက "ကိုရင်လေး ဈာန်ရနေပါလား"လို့ ရိပ်မိသိရှိတဲ့ အခါ -

"ကိုရင် သင်ဟာ အခုတော့ အင်မတန် တန်ခိုးကြီးပါတယ်။ ဒါပေမယ့် တစ်နေ့မှာတော့ ကိုယ့်တန်ခိုး ကိုယ် ဖျက်ပြီး ရက်ကန်းရက်တဲ့ အကန်းမလေးလက်နဲ့ နယ်တဲ့ ဆန်ပုံးရည် သောက်နေရလိမ့်မယ်"လို့ သတိပေးတော်မူပါတယ်။

ဒါပေမယ့် ငယ်ရွယ်တဲ့ ကိုရင်က ထိတ်လန့်တာ သံဝေဂရတာ မဖြစ်ပါဘူး။ ခိုင်မြဲတဲ့ မဂ်ဖိုလ်တရားတွေ ရဖို့အတွက် ကမ္မဋ္ဌာန်းလည်း မတောင်းပါဘူး။ "ဘာကို ပြောလိုတာလဲ"လို့လည်း မစဉ်းစားဘဲ မကြားချင်ယောင်ဆောင်နေလိုက်ပါတယ်။

အမှတ်တမဲ့နဲ့ ရက်တွေ လတွေ လွန်ခဲ့ပြီး တစ်နေ့မှာတော့ မထေရ်ကြီးက မြေပြင်ကနေ ခြေလျင် ဆွမ်းခံကြွပါတယ်။ သူက ထုံးစံအတိုင်း ကောင်းကင်ကနေ ဈာန်ယာဉ်စီးပြီး သွားပါတယ်။ ကျောင်းနဲ့ ရွာကြားက ကြာပန်းတွေ ပြည့်နေတဲ့ ကြာအိုင်ကြီးမှာ ငယ် ရွယ် လှ ပ တဲ့ အပျိုမလေး တစ်ယောက် ပန်းခူးရင်း အသံကောင်းကောင်းနဲ့ သီချင်းဆိုနေသံကို အမှတ်မထင် ကြားလိုက်ပါတယ်။

ကြားရတဲ့ အသံကို နှစ်သက်သဘောကျတဲ့ ကာမစ္ဆန္ဒ၊ လိုချင်တပ်မက်တဲ့ ကာမစ္ဆန္ဒတွေ ဝင်လာတဲ့အခါမှာ စျာန်တန်ခိုးတွေ ကွယ်ပျောက်ပြီး အတောင်ကျိုးတဲ့ငှက်လို မြေပြင်ကို ကျရှာပါတော့တယ်။ စျာန်လျှောသွားပြီပေါ့။

## အကန်းမနဲ့ ညား

ရေကန်နံဘေးမှာ ရပ်စောင့်နေတဲ့ ကိုရင်ကို မြင်တဲ့အခါ "ကိုရင်တော့ ငါ့ကို သံယောဇဉ်ဖြစ်ပြီ" လို့ အမျိုးသမီးလေးလည်း သိသွားပါတယ်။ ကမ်းပေါ်တက်လာရင်ပဲ ကိုရင်က မေတ္တာမျှဖို့ ပြောပါသတဲ့။ အမျိုးသမီးငယ်က ဃရာဝါသ လူ့လောကရဲ့အပြစ်တွေကို ပြောပြပြီး အမျိုးမျိုး တောင်းပန်ပါတယ်။ ဒါပေမယ့် ဇွတ်တွယ်ကပ်နေတဲ့ ကိုရင်ကို သနားသွားလို့ နောက်ဆုံးမှာ လက်ခံလိုက်ပါတယ်။ အိမ်ကို ခေါ်သွားပါတယ်။

ကိုရင်လူထွက်ဟာ ယောက္ခမအိမ်မှာ နေပြီး ရက်ကန်းရက်ကာ လုပ်ကိုင်စားသောက်ရပါပြီ။ ဒါပေမယ့် ဆရာဥပဇ္ဈာယ်ရဲ့စကားကို အမှတ်မရသေးပါဘူး။ ပျော်ပျော်ရွှင်ရွှင်ပဲ အိမ်ထောင့်တာဝန်တွေကို ထမ်းဆောင်နေပါတယ်။

တစ်နေ့မှာတော့ အိမ်က ဇနီးသည် ထမင်းပို့တာ နောက်ကျလို့ ဆူပူကြိမ်းမောင်းလိုက်တယ်။ ဇနီးသည်ကလည်း အများရှေ့မှာ တစ်ခွန်းမခံ ပြန်အော်တယ်။ ရှက်ရှက်နဲ့ ရက်ဖောက်တံကို လွှဲပြီးပစ်ပေါက်လိုက်တာ ဇနီးသည်ရဲ့မျက်စိကို တည့်တည့်ထိမှန်သွားလို့ ကန်းသွားပါတော့တယ်။

အဲဒီတော့မှ "ကိုရင်၊ သင်ဟာ အခုတော့
အင်မတန် တန်ခိုးကြီးပါတယ်။ ဒါပေမယ့်
တစ်နေ့မှာတော့ ရက်ကန်းသည်အကန်းမရဲ့
လက်နဲ့ နယ်တဲ့ ဆန်ပုံးရည် သောက်နေရ
လိမ့်မယ်"

-ဆိုတဲ့ ဆရာ့စကား နားမှာပြန်ကြားပြီး နောင်တရကာ ငိုကြွေးရပါတယ်။ ဘာမှ မတတ်နိုင်တော့ပါဘူး။ ဘယ်သူမှ မကယ်နိုင်တော့ပါဘူး။

(ဝိဘင် အဋ္ဌကထာ)

## ဈာန် ရခဲ့သူ မီးသွေးဖုတ်

နီဝရဏတရားတွေ ဝင်လာရင် ရပြီးသားဈာန်တောင် လျောတဲ့အကြောင်း နောက်သာဓကတစ်ခု ပြပါဦးမယ်။

တစ်ခါက ရဟန်းသာမဏေ သုံးဆယ်တို့ဟာ မဟာစေတီတော်ကို ဖူးမြော်ပြီး တောလမ်းခရီးက ပြန်ကြွလာကြပါတယ်။ လမ်းမှာ မီးသွေးဖုတ်ပြီး ပြန်လာတဲ့ ဒကာကြီးတစ်ယောက်နဲ့ တွေ့ကြပါတယ်။

မီးသွေးတွေ ပေရေမည်းညစ်ပြီး မီးလောင်ငုတ်တိုလို ဖြစ်နေတဲ့ သူ့ကို မြင်တဲ့အခါ ကိုရင်တွေ ဦးဇင်းတွေက "ဒါ ကိုရင့်အဖေ၊ ကိုရင့်အဖိုး"လို့ တစ်ပါးနဲ့ တစ်ပါး စကြနောက်ကြပြောင်လှောင်ကြပါတယ်။

အနားရောက်လာတဲ့အခါ "ဒကာကြီးနာမည် ဘယ်လိုခေါ်သလဲ"လို့ မေးကြတော့ မီးသွေးဖုတ်တဲ့ ဒကာကြီးက ဝမ်းနည်းပက်လက်နဲ့ လျှောက်ထားပါတော့တယ်။

## လ, နေကို ကိုင်ခဲ့

ပြောင်လှောင် ရယ်မောနေကြတဲ့ ရှင်ရဟန်းငယ်တွေကို -

"အရှင်ဘုရားတို့ တပည့်တော်ကို ကြည့်ပြီး ပြောင်လှောင်နေကြသလား၊အရှင်ဘုရား

တို့က သက်န်းဝတ်ရုံထားတာနဲ့ ပြည့်စုံပြီလို့ မမှတ်ကြပါနဲ့။ တပည့်တော်လည်း ဟိုတုန်းက တော့ အရှင်ဘုရားတို့လို ရဟန်းပဲပေါ့။”

“အရှင်ဘုရားတို့ကို ကြည့်ရတာ စိတ်တည်ငြိမ်မှုလေးလောက်တောင် မရကြသေးပါဘူး။ တပည့်တော်ဟာ အင်မတန် တန်ခိုးကြီးတဲ့ ရဟန်းတစ်ပါး ဖြစ်ခဲ့ပါတယ်။”

“ကောင်းကင်ကို မြေကြီး၊ မြေကြီးကို ကောင်းကင် ဖြစ်အောင် လုပ်နိုင်ခဲ့ပါတယ်။ အဝေးကို အနီး၊ အနီးကို အဝေးဖြစ်အောင် ပြု လုပ် နိုင် ခဲ့ ပါ တယ်။ စ ကြ ဝဠာတိုက် တစ်သောင်းကို ခဏချင်းရောက်အောင် သွားနိုင်ခဲ့ပါတယ်။”

“အရှင်ဘုရားများ အခု တပည့်တော်ရဲ့ လက်တွေကို ကြည့်ကြပါ။ တောထဲက မျောက်လက်နဲ့ တူနေပါပြီ။ ဒါပေမယ့် ဒီလက်ဝါးတွေနဲ့ပဲ လတွေ နေတွေကို ကိုင်တွယ်ခဲ့ပါတယ်။ ဒီခြေထောက်တွေနဲ့ လတွေ နေတွေကို ခြေပွတ် အိုးခြမ်းကွဲလို နင်းခဲ့ပါတယ်။”

"အဲဒီတန်ခိုးတွေဟာ တပည့်တော်ရဲ့ မေ့လျော့ ပေါ့ဆမှုကြောင့် ကွယ်ပျောက်ခဲ့ရတာပါ။ အရှင်ဘုရားတို့ မမေ့မလျော့ကြပါနဲ့၊မမေ့မလျော့ ကျင့်ကြံနေထိုင်ကြမယ်ဆိုရင် ဇာတိ, ဇရာ, မရဏဆိုတဲ့ သံသရာဘေးဆိုးကြီးထဲက လွတ်မြောက်ကြပါမယ် ဘုရား၊ တပည့်တော်ကို ကြည့်ပြီး သတိဝင်ကာ မမေ့မလျော့ နေစေချင်ပါတယ်ဘုရား"

-လို့ သံဝေဂဖြစ်အောင်လျှောက်ထားလိုက်ပါတယ်။

ရဟန်းသာမဏေသုံးဆယ်တို့ဟာ ဒကာကြီးရဲ့ စကားကို ကြားပြီး သံဝေဂဖြစ်ကာ ဝိပဿနာတရား ပွားများအားထုတ်ကြလို့ အဲဒီနေရာမှာပဲ အားလုံးရဟန္တာ ဖြစ်တော်မူကြပါတယ်။

(ဝိဘင်္ဂအဋ္ဌကထာ)

## စိတ်မသန့်ရှင်းလို့

ဘုန်းကြီးတို့ပရိသတ်- သံ ကြေး ခဲပုပ်စတာတွေဟာ ရွှေရဲ့ အညစ်အကြေးတွေပါ။ အညစ်အကြေး မကင်းစင်တဲ့ရွှေဟာရွှေစင်ရွှေကောင်းဖြစ်မလာပါဘူး။ အရောင်အဆင်းလည်း မထွက်၊ ပျော့

ပျောင်းမှုလည်း ကင်းတဲ့အတွက် လက်ဝတ်တန်ဆာလည်း မပြုလုပ်နိုင်ပါဘူး။ အသုံးချလို့ မရပါဘူး။

အဲဒီလိုပါပဲ။ နီဝရဏတွေ ဝင်ရောက်နေတဲ့စိတ်ဟာ ကြည်လင်မှုလည်း မရှိ။ နူးညံ့မှုလည်းကင်းတဲ့အတွက် တရားဓမ္မတွေ မတည်နိုင်ပါဘူး။

နီဝရဏတရား ငါးပါးတို့ဟာ ပညာမျက်စိတွေကန်းအောင်၊ အသိဉာဏ် မဲ့သွားအောင် ပြုလုပ်တတ်ပါတယ်။ ကုသိုလ်တွေ မဖြစ်အောင် တားဆီးပါတယ်။ အကုသိုလ်တရားတွေသာ ဖြစ်ပါတယ်။

(မဟာဝဂ္ဂသံယုတ်)

ဒါကြောင့် နီဝရဏတရားတွေ ဝင်ရောက်လာတဲ့အခါမှာ မဖြစ်သေးတဲ့ ဈာန်၊ မဂ် ဖိုလ်တို့ မဖြစ်တော့တဲ့အပြင် ဖြစ်ပြီးသား ဈာန်တရားတွေတောင်လျှောကျပျက်စီးသွားပါတယ်။ တရားထူးတရားမြတ်တွေဟာ သန့်ရှင်းတဲ့စိတ်မှာသာ တည်နိုင်ပါတယ်။ နီဝရဏ ဝင်နေတဲ့ မသန့်စင်တဲ့စိတ်မှာ မနေနိုင်တဲ့အတွက် တိမ်းရှောင်ထွက်သွားကြပါတယ်။

❖ ❖ ❖

# “ကာမစ္ဆန္ဒနီဝရဏ”

## ကာမစ္ဆန္ဒနီဝရဏ

ကာမစ္ဆန္ဒဆိုတာ အာရုံငါးပါး ကာမဂုဏ်တရားတွေကို လိုချင်နေတာ၊ ငတ်မွတ်တောင့်တနေတာ၊ ခင်မင်တွယ်တာနေတာပါ။ ကာမရာဂလို့လည်း ခေါ်နိုင်ပါတယ်။

မြတ်စွာဘုရားက **“ပုဏ္ဏားကြီး- သင် ရပြီးသားစာတွေ မေ့ကုန်တာ ကာမစ္ဆန္ဒလို့ ခေါ်တဲ့ ကာမရာဂကြောင့်ပါ။ ကာမစ္ဆန္ဒ-ကာမရာဂစိတ်တွေ ဝင်ရောက်လာပြီဆိုရင်၊ မပယ်ရှားနိုင်ဘူးဆိုရင် နေ့တိုင်း ရွတ်ဆိုနေတဲ့စာတွေ ပျောက်သွားလိမ့်မယ်။ အကျိုး ရှိ-မရှိကို မကြည့်နိုင်တော့ဘူး။ အမှန်ကို မမြင်နိုင်တော့ဘူး။**

**"ကျက်မှတ်နေတာကိုတောင် မမှတ်သား နိုင်တော့ မကျက်မမှတ်ဘဲထားတဲ့စာတွေ ဆို ရင် ဘယ်မှာ ဆိုဖွယ်ရာ ရှိပါ့မလဲ။"**

- လို့ မိန့်ကြားတော်မူလိုက်တယ်။

ဘုန်းကြီးတို့ပရိသတ် လိုက်မှတ်ထားလိုက်ပါ။

## * အာရုံငါး၀ တပ်မက်က ကာမစ္ဆန္ဒမည်။

ငါးပါးအာရုံ ကာမဂုဏ်ကို တပ်မက်တာ၊ အလို ရှိနေတာ၊ စွဲလမ်းမက်မောနေတာဟာ ကာမစ္ဆန္ဒ။ ကုသိုလ်တရားတွေပျောက်အောင် ဝင်နှောက်လိုက် တာ ကာမစ္ဆန္ဒ။

## အာရုံငါးပါး ကာမဂုဏ်တရား

ဘုန်းကြီးတို့ပရိသတ် သိကြတဲ့အတိုင်း အာရုံ ငါးပါးဆိုတာဟာ-

(၁) အဆင်းမျိုးစုံ ရူပါရုံ

(၂) အသံမျိုးစုံ သဒ္ဒါရုံ

(၃) အနံ့မျိုးစုံ ဂန္ဓာရုံ

(၄) အရသာမျိုးစုံ ရသာရုံ

(၅) အတွေ့အထိမျိုးစုံ ဖောဋ္ဌဗ္ဗာရုံတို့ပါပဲ။

အဲဒီအာရုံငါးပါးကို လူ နတ် ပြဟ္မာ သတ္တဝါတွေ အားလုံးက အလိုရှိကြပါတယ်။ နှစ်နှစ်ကာကာကြီးကို စွဲမက်ကြပါတယ်။ အာရုံတွေနောက်တကောက်ကောက်လိုက်ကြပါတယ်။

ခန္ဓာကိုယ်မှာ ရှိသမျှ မျက်စိ နား နှာခေါင်း လျှာ ကိုယ် စိတ်တို့ကို အစွမ်းကုန်အသုံးချပြီး အာရုံမျိုးစုံကို ခံစားချင်ကြပါတယ်။ မရရင်မဖြစ်၊မရှိရင်မနေနိုင်တဲ့အထိကို ခင်မင်မက်မောကြလွန်းလို့ လိုချင်အားကြီးလွန်းလို့ ကာမဂုဏ်လို့ ခေါ်ရပါတယ်။ ဒီလို လိုချင် ရချင် ခင်ချင်စိတ်ကို ကာမစ္ဆန္ဒ ဒါမှမဟုတ် ကာမရာဂလို့ ခေါ်ပါတယ်။ အဲဒီကာမရာဂစိတ်ဟာ နီဝရဏတရားပါ။ ကာမစ္ဆန္ဒနီဝရဏပါ။

## လိုချင်မှု လောဘ

အများသိလွယ်အောင် ဘုန်းကြီးတို့ပြောရမယ်ဆိုရင် ကာမစ္ဆန္ဒဆိုတာ အထူးအဆန်း မဟုတ်ပါဘူး။ လိုချင်တဲ့ လောဘပါပဲ။ အာရုံတွေနောက်လိုက်ပါသာယာနေတဲ့ လောဘတရားဟာ နီဝရဏအနေအားဖြင့် ကာမစ္ဆန္ဒနီဝရဏ ဖြစ်ပါတယ်။

မြင်လိုက် ကြားလိုက်ရင် မြင်ရ ကြားရတာကို သဘောကျတယ်။ နှစ်သက်တယ်။ လိုချင်တယ်။ နှာခေါင်းထဲ ဝင်လာတဲ့ အနံ့လေးကို စွဲသွားတယ်။ လိုချင်တယ်။ စားလိုက်သောက်လိုက်နဲ့ စားသောက်ရတဲ့အရသာလေးကို သဘောကျတယ်။ ထပ်တလဲလဲ လိုချင်တယ်။ စားချင်တယ်။ ကိုယ်နဲ့ ထိတွေ့ပွတ်သပ်ခံစားပြီး နူးညံ့တာ၊ သိမ်မွေ့တာ၊ ချောညက်အိစက်နေတာလေးကို စွဲသွားတယ်။ လောဘစိတ်တွေ ပေါ်ထွက်လာတာပါ။

စိတ်ထဲကို မသိမသာလေး ကာမစ္ဆန္ဒ ချဉ်းနင်းဝင်ရောက်လာတဲ့ သဘောတွေပါ။ တစ်ခါတလေမှာ ဣန္ဒြေပျက်လောက်အောင် သိက္ခာ မဆည်နိုင်အောင် ခပ်ကြမ်းကြမ်း ဝင်လာတာမျိုးလည်း ရှိပါတယ်။ ရုပ်ပျက်ဆင်းပျက် ဖြစ်သွားရတဲ့အထိလည်း ကာမစ္ဆန္ဒတွေ ဝင်ရောက်လာတတ်ပါတယ်။

## တရားအားထုတ်ရင်းဝင်

သတိမကပ်ဘဲ အမှတ်တမဲ့နေတာကို မပြောပါနဲ့။ သတိထားပြီး ရှုမှတ်နေရင်းအားထုတ်နေရင်းတောင် မျက်လုံးဖွင့်လိုက်လို့ မြင်တဲ့နောက် စိတ်

ရောက်ပြီး လိုချင်မှု ဝင်သွားတယ်။ အမှတ်လွတ်သွားတယ်ဆိုရင် ရှုမှတ်နေတဲ့တရားတွေ မရှိတော့ပါဘူး။ ပျောက်ကုန်ပါပြီ။

ဘုန်းကြီးတို့ပရိသတ် - အသံလေး ကြားလိုက်လို့ သဘောကျတဲ့အသံလေး ကြားလိုက်လို့ သာယာတယ်။ သဘောကျတယ်ဆိုရင် ဝိပဿနာတရားပျက်သွားပါပြီ။

တရားအားထုတ်ရင်း အိမ်မှာကျန်ခဲ့တဲ့ သားတွေ သမီးတွေ ဇနီး မယား ခင်ပွန်းတွေဆီကို ပြန်သတိရတယ်။ အိုးအိမ်ဥစ္စာ လယ်ယာတွေနောက်ကို စိတ်ကရောက်သွားတယ်ဆိုရင် တရား မေ့သွားပါပြီ။

သံယောဇဉ်ရှိတဲ့သူတွေရဲ့ မျက်နှာကိုပဲ တရစ်ဝဲဝဲ မြင်ယောင်နေတယ်။ အသံလေးကို နားထဲမှာကြားယောင်နေတယ်ဆိုတာလည်း ကာမစ္ဆန္ဒပါပဲ။ အရှုအမှတ်တရားတွေ မေ့ပျောက်ကုန်လို့ တရားမရနိုင်တော့ပါဘူး။ တရားမရခြင်းရဲ့အကြောင်းရင်း နံပါတ်တစ်ဟာ ကာမစ္ဆန္ဒနီဝရဏပါ။

# ကိလေသာသူပုန်ထ

လောဘ၊ ဒေါသစတဲ့ကိလေသာတွေဟာ အင်မတန် ဆိုးသွမ်းသောင်းကျန်းတဲ့သူပုန်နဲ့တူပါတယ်။ သူပုန်တွေ ရွာထဲဝင်လာရင် တွေ့သမျှလူတွေသတ်၊ အိမ်တွေကို မီးရှို့ဖျက်ဆီးတတ်လို့ တစ်ယောက်မကျန် အကုန် ထွက်ပြေးကြရပါတယ်။ ဘယ်သူမှ မနေရဲကြပါဘူး။

ကာမစ္ဆန္ဒဆိုတဲ့လောဘသူပုန်ဝင်လာရင်လည်း အတူတူပါပဲ။ ကုသိုလ်တွေ ထွက်ပြေးရပါတယ်။ မပြေးနိုင်ရင်လည်း အသတ်ခံကြရလို့ ကုသိုလ်တွေ အသက်ရှင်ခွင့် မရကြတော့ပါဘူး။ စောစောက အေးချမ်းနေတဲ့စိတ်တွေမှာလည် လောဘမီးလောင်လို့ ပူလောင်မှုတွေ ဖြစ်လာရပါတယ်။ မကြည်မသာ ဖြစ်လာရပါတယ်။

ဝင်ရောက်လာတဲ့ ကာမစ္ဆန္ဒကို အမြန်ဆုံးပယ်နိုင်ရင် ပယ်၊ မပယ်နိုင်ရင်တော့ အတိုင်းအဆ မရှိအောင် ဆင်းရဲဒုက္ခတွေ ဝင်ရောက်လာပါတော့တယ်။ ဒုက္ခကိုလက်ကမ်းကြိုမိသလိုဖြစ်သွားပါလိမ့်မယ်။

# မိန်းမဆို အလိုမရှိ

ရှေးတုန်းက ဗာရာဏသီပြည်မှာ ဗြဟ္မဒတ်မင်းကြီးရဲ့သားတော်တစ်ပါး ရှိပါတယ်။ ဗြဟ္မာဘဝက သက်ဆင်းလာတဲ့သူ ဖြစ်တာမို့ ဈာန်အထုံက မကုန်သေးပါဘူး။

ဖွားမြင်ပြီးလို့ နို့ထိန်းတွေ လက်ထဲ ထည့်တဲ့အခါမှာ မိန်းမနံ့ကို မခံနိုင်လို့ ငိုပါတယ်။ မောင်းမမိသံ အခြွေအရံတွေ ဘယ်သူမှ ချီလို့ပွေ့လို့ မရပါဘူး။ လက်ထဲရောက်တာနဲ့ ကျောကော့အောင် ငိုပါတယ်။ ယောကျ်ားတွေသာ ချီပွေ့ရပါတယ်။ ထူးခြားတဲ့သားတော်လေးဟာ မိန်းမတွေကို မနှစ်သက်မှန်း၊ မိန်းမနံ့ကို မခံနိုင်မှန်း သိကြလို့ "အနိတ္ထိဂန္ဓမင်းသား"လို့ အမည်ပေးလိုက်ကြပါတယ်။

မင်းသားလေးအတွက် နို့တိုက်ရင်တောင် နို့ဗူးနဲ့ တိုက်ရတယ်။ နေရာကလည်း မိန်းမတွေနဲ့ ဝေးရာမှာ သီးခြားထားရပါတယ်။ မိန်းမများ အသွားအလာ အဝင်အထွက် မရှိစေရလို့ အမိန့်ထုတ်ထားပေးရပါတယ်။ အရွယ်ရောက်တော့လည်း ဈာန်ပဲဝင်စားနေပါတယ်။ ထီးနန်းကိုလည်း စိတ်မဝင်စားပါဘူး။

ခမည်းတော် မယ်တော်တွေက စဉ်းစားရပြီ ပေါ့။ "ဒီသားတော်လေးတစ်ပါး ရှိတာ၊ ဒီအတိုင်း ဆို မျိုးဆက် ပြတ်သွားမယ်။ တောထွက်သွားရင် အခက်"လို့ တွေးလာကြရပါတယ်။

ဒီအကြံကို ကချေသည်မင်းသမီးလေး သိတဲ့ အခါ "သူ့ကို တာဝန်ပေးပါ"လို့တောင်းဆိုပါတယ်။ ဘုရင်ကြီးကလည်း မျိုးဆက် မပြတ်ရေးအတွက် အောင်မြင်ရင် "မိဖုရားခေါင်ကြီး ဖြစ်စေရမယ်"လို့ အာမခံထားလိုက်ပါတယ်။

ကချေသည် မင်းသမီးလေး ကြံစည်ပြီပေါ့။ မင်းသားနားကို ကပ်ခွင့်မရရင် အဝေးကနေ တိုက် စစ်ဆင်မယ်။ ထိုးဖောက်ဝင်မယ်လို့ မနီးမဝေးကနေ စောင်းတီးပြီး သီချင်းဆိုပါတယ်။ သာယာတဲ့စောင်း သံ၊ သီချင်းသံ နားထဲဝင်တော့ မင်းသား စျာန် မဝင်စားနိုင်တော့ဘူး။ အိပ်ရာထဲလှဲပြီး နားထောင် တယ်။ မသိမသာ စွဲလမ်းလာတယ်။

## တစ်ဦးတည်းပိုင်ချင်

မင်းသား သဘောကျမှန်း သိရတော့ တစ်စ တစ်စနဲ့ တိုးကပ်လာလိုက်တာ. . နောက်ဆုံး စံအိမ်

တော်ပေါ် ရောက်လာပါပြီ။ မင်းသမီးလေးကလည်း အလှဆုံးဖြစ်အောင်ပြင်၊ သာယာချိုသာနားဝင်မယ့် စကားတွေကိုပြော၊ အရသာရှိတဲ့ အစားအစာတွေကို ကိုယ်တိုင်စီမံကာ ချက်ပြုတ်ကျွေးပြီးဆွဲဆောင်တဲ့အခါ မင်းသား မခံနိုင်တော့ပါဘူး။

ကချေသည်မလေးကို စွဲမက်ပြီး လက်ထပ်ပေါင်းသင်းပါတော့တယ်။ "ကာမဂုဏ်ရဲ့ အရသာကို ခံစားရတာ နောက်ကျသွားတယ်။ ဒီလိုမှန်း သိရင် စောစောထဲက ခံစားရရင်အကောင်းသား"လို့ တွေးမိတယ် ထင်ပါရဲ့။ "မိန်းမမှန်သမျှ ဘယ်သူမှ မယူရဘူး။ ငါတစ်ယောက်သာ အားလုံးယူမယ်။ ယောကျ်ားမှန်သမျှ သတ်ပစ်မယ်"လို့တောင် ကြိမ်းဝါးပါတယ်။

မြင်သမျှ ယောကျ်ားတွေကို သတ်ရအောင် သန်လျက်နဲ့လိုက်ပါတယ်။ အရူးအမူးဖြစ်ပြီး ဘယ်လိုမှ မထိန်းနိုင်တော့တဲ့အခါ တိုင်းပြည်ကတောင် နှင်ထုတ်လိုက်ရပါတော့တယ်။

(ဇာတက ၄၁)

ကာမစ္ဆန္ဒဝင်ရောက်ရင် ဘယ်လောက်ကြောက်စရာကောင်းတယ်ဆိုတာ ဒါကိုသာကြည့်ပေတော့။

တရားလက်လွတ်ဖြစ်ရုံမက စည်းလွတ်ဝါးလွတ်ဖြစ်တဲ့အထိ ရောက်အောင်ကို ဆိုးသွမ်းစေတာဟာ ကာမစ္ဆန္ဒပါ။

## ဆွဲဆောင်မှုအရှိဆုံး

မြတ်စွာဘုရားရှင်က- "မိန်းမရဲ့ အဆင်း၊ အသံ၊ အနံ့၊ အတွေ့အထိတွေဟာ ယောကျ်ားအတွက် ဆွဲဆောင်မှုအရှိဆုံး၊ ယောကျ်ားရဲ့အဆင်း၊ အသံ၊ အနံ့၊ အတွေ့အထိတွေဟာ မိန်းမအတွက် အဆွဲဆောင်နိုင်ဆုံးလို့တောင် ဟောကြားတော်မူပါတယ်။

ကာမစ္ဆန္ဒရဲ့ သွေးဆောင်မှုဟာ သက်မဲ့ထက် စာရင် သက်ရှိက ပြင်းထန်တာ၊ မနီးစပ်တာနဲ့စာရင် နီးစပ်တာက ဆွဲအားကောင်းတာ တွေ့ကြမှာပေါ့။

တရားရှိသူတွေကိုလည်း တရားပျက်စေနိုင်ပါတယ်။ ပညာရှိသူတွေကိုလည်း ပညာမဲ့စေနိုင်ပါတယ်။ အပြစ်ကိုသာ မြင်မထားရင် ခံနိုင်ရည်ရှိဖို့ မလွယ်ပါဘူး။

ဘုန်းကြီးတို့ပရိသတ် တစ် ခေတ် တစ် ခါ က လျှမ်းလျှမ်းတောက်ကျော်ကြားခဲ့တဲ့ လယ်တီပဏ္ဍိတ

ဦးမောင်ကြီးဆိုတာ ကြားဖူးမှာပေါ့။ လောကီ လောကုတ္တရာ ပြည့်စုံတဲ့ စွယ်စုံပညာရှင်ကြီးပါ။ ရဟန်းဘဝကဆို နာမည်ကျော် ဓမ္မကထိကပုဂ္ဂိုလ် ပေါ့။

ဆရာကြီး ရေးစပ်ထားတဲ့ အချစ်ဘွဲ့တေးထပ် တစ်ခုမှာ ကာမစ္ဆန္ဒနီဝရဏတွေ ဝင်လာပြီဆိုရင် ဘုရားတောင် တားလို့မရဘူး၊ သိကြားမင်း ချော့ တောင် မပျော့နိုင်ဘူးလို့ ဆိုထားပါတယ်။

❀ နိဗ္ဗာန်မှာ စံစားတဲ့၊ ဘုရားကြီး ကြွကာ၊
တားဆီးလို့ ဆွဲလာတောင်၊ မရပါ ခိုင်မြဲ။
စူးရှတဲ့ အချစ်တွေဟာ၊ အမြစ်ရေ ခင်ခင့်၌စွဲ။

❀ ချစ်ပုံနည်းတုစရာ၊ ဥပမာရှိဘဲ
ယခုခါ ဂတိမလွဲပြီကွယ့်၊ အတိဘဲလင်းဖော်။
အေး ဆိုလျှင် ဒွေး မရပြီဘူး၊
လေးနှစ်မ မင့်ပြင်ဖြင့်နော်။

❀ ဝတိံက စေတမန်တော်ငယ်၊
ဝေယန်မော် မြတ်ရထားငယ်နှင့်
နတ်သိကြား ကိုယ်တိုင်မကြာ၊
ဆင်း ကြွတဲ့ကာ။

အမျိုးမျိုး အချော့လာတာတောင်၊
ကန်တော့ပါ ဆိုလိုက်မယ်ကွယ့်လေး။

ကာမဂုဏ်ရဲ့ ဆွဲဆောင်မှု ဘယ်လောက်အား ကောင်းတယ်၊ ရုန်းထွက်ဖို့ ခက်တယ်။ ဘုရားမေ့ တရားမေ့ဖြစ်တယ်ဆိုတာ အထင်အရှားပါပဲနော်။

## ဘုရား ဆက်ရှင်းပြ

စာမေ့တဲ့အကြောင်း၊ စာမရတဲ့အကြောင်းတွေ မေးလာတဲ့ သင်္ဂါရဝပုဏ္ဏားကြီးကို ဥပမာပြပြီး ရှင်း ပြပါတယ်။

**"ပုဏ္ဏားကြီး ကာမရာဂ၊ ကာမစ္ဆန္ဒရဲ့ သဘောအဓိပ္ပာယ်ကို ငါဘုရား ဥပမာနဲ့ ရှင်း ပြမယ်။ သန့်ရှင်းကြည်လင်တဲ့ ရေတစ်ခွက် ခပ် ယူပြီး ငုံ့ကြည့်လိုက်ပါ။ သင့်ရဲ့ မျက်နှာအရိပ် ကို မြင်ရပါလိမ့်မယ်။**

**ပုဏ္ဏားကြီး. . ကြည်လင်တဲ့ ရေထဲကို မဲနယ်တွေထည့်၊ ချိပ်တွေထည့်၊ နနွင်းတွေ ထည့်ပြီး အရောင်ဆိုးထားရင် အရိပ် မထင်**

**တော့ဘူး။ အရောင်တွေကင်းမှ အရိပ် မြင်ရသလို ကာမစ္ဆန္ဒ၊ ကာမရာဂတွေကင်းမှ စာတွေ ဉာဏ်မှာ ထင်တော့မှာပေါ့။**

လက်ာလေး တိုင်ပေးမယ်၊ လိုက်ဆိုပါ။

* **အရောင်ဆိုးထား ရေခွက်အလား၊ ထင်ရှား မမြင်ပြီ။**

ဘုန်းကြီးတို့ပရိသတ် သန့်ရှင်းကြည်လင်တဲ့ရေနဲ့ နီဝရဏကင်းတဲ့စိတ် ကြည်လင်နေတဲ့စိတ်နဲ့ တူပါတယ်။ ကာမစ္ဆန္ဒနီဝရဏက ဆေးရောင်တွေနဲ့ တူပါတယ်။ အရောင် ဆိုးထားတဲ့ ရေခွက်ထဲမှာ မျက်နှာရိပ် မပေါ်ပါဘူး။ နီဝရဏတွေ ဝင်နေတဲ့ စိတ်မှာလည်း တရားတွေ မထင်ရှား မပေါ်လွင်တော့ဘူး။

တရားရှုမှတ်နေချိန် ရုပ်နာမ်တရားတွေ စိတ်ဝင်စားနေချိန်မှာ ကာမစ္ဆန္ဒတွေကင်းပြီး နေတယ်။ ရုတ်တရက် အလှအပလေးတွေ မြင်လိုက်လို့၊ နှစ်သက်သူရဲ့ အသံလေး ကြားလိုက်လို့ သာယာသွားရင် လောဘဖြစ်သွားရင်ကိလေသာဝင်သွားပြီနော်။

မရှုမှတ်နိုင်ဘဲ စိတ်ထဲမှာ လက်ခံလိုက်ရင် တရား အာရုံတွေ ပျောက်ထွက်သွားပါရော။

ဘုန်းကြီးတို့ပရိသတ် ကာမစ္ဆန္ဒတွေ ကင်းရှင်း နေရင် တရားရမယ်။ ကာမစ္ဆန္ဒ ဝင်ရောက်လာရင် တရားမရတော့ဘူး။ ရှင်းရှင်းလေးပဲ။ အကျိုးစီးပွား လည်း ပျက်စီးသွားပြီ။ အကျိုးရှိ-မရှိ မသိတော့ဘူး။ မိမိ-သူတစ်ပါး ဘယ်သူမှ အကျိုးမများတော့ဘူး။

## ဘာကြောင့်ဝင်နိုင်။

ဘာကြောင့် ဝင်လာရသလဲ။ ကာမစ္ဆန္ဒတွေ ဘာကြောင့် ဝင်နိုင်သလဲ စဉ်း စား ကြည့် လိုက်။ သဘောကျလိုက်လို့, လက်ခံလိုက်လို့ ဝင်နိုင်တာ။ လိုလိုချင်ချင်နဲ့ကို သဘောတူလိုက်လို့ ရောက်လာ တာပါ။ ဘုန်းကြီးတို့ ရှုမှတ်နည်း ပေးထားပါတယ်။

မြင်ရတဲ့ ရူပါရုံ, ကြားရတဲ့ အသံမျိုးစုံ, နှာ ခေါင်းထဲ ရောက်လာတဲ့ အနံ့မျိုးစုံ, လျှာပေါ် တင် လာတဲ့ အရသာမျိုးစုံ, အတွေ့အထိမျိုးစုံကို "ရုပ်, ရုပ်"လို့ ရှုခိုင်းပါတယ်။ ရုပ်လို့ ရှုနေရင် ကာမစ္ဆန္ဒ

မဝင်နိုင်ဘူး။ လုံနေတယ်နော်။ ကိုယ့်ဘက်က လုံနေရင် သူ ဝင်လို့မရဘူး။ အာရုံငါးပါးကို ခံစားတတ်တဲ့စိတ်ကို နာမ်လို့ အဆက်မပြတ် ရှုထားရင်လည်း သူ မထိုးဖောက်နိုင်ဘူး။

ကိုယ်တိုင်က သဘောကျနှစ်သက်ပြီး လက်ခံလိုက်တယ်။ အရှုအမှတ်တွေ လွတ်သွားတယ်ဆိုရင်တော့ မရတော့ဘူး။ သူ အားကောင်းသွားရင် ရှိတဲ့တရား အကုန်ပျောက်၊ အမှတ်တရားတွေ အကုန်ပြေးရပြီလို့သာ မှတ်ပေတော့။

## ကာမစ္ဆန္ဒ ပယ်ချင်ရင်

ကာမစ္ဆန္ဒဟာ ရပြီးသားစာတွေကို မေ့စေနိုင်ပါတယ်။ ဒါတင်မက စီးပွားဉစ္စာတွေကိုလည်း ဖျက်ဆီးပစ်နိုင်ပါတယ်။ ကုသိုလ်တရား၊သူတော်ကောင်းတရား၊ မဂ်ဖိုလ်တရားတွေကိုလည်း အတားအဆီးဖြစ်စေပါတယ်။

ကာမဂုဏ်အပြစ်တွေကို သိပြီး ကာမစ္ဆန္ဒ ပယ်ချင်တဲ့သူဟာ-

၁။ အသုဘနိမိတ် ရှုမြင်ရအောင် သင်ယူပါ။

၂။ အသုဘ ဘာဝနာကို ထပ်ကာ ထပ်ကာ ရှုပွားပါ။
၃။ ဣန္ဒြေ ၆-ပါး တံခါးတွေကို ပိတ်ဆို့ပါ။
၄။ အတိုင်းအဆနဲ့ စားသောက်ပါ။
၅။ မိတ်ဆွေကောင်းကို ပေါင်းသင်းပါ။
၆။ အသုဘ ဘာဝနာနဲ့ စပ်ယှဉ်တဲ့ စကားကို ပြောဆိုပါ။

# နည်းနှစ်မျိုးသာရှိ

ကာမစ္ဆန္ဒ ပယ်နည်းက သမထနည်း၊ဝိပဿနာ နည်း နှစ်မျိုးခွဲနိုင်ပါတယ်။ သမထနဲ့ဆိုရင် အသုဘ ဘာဝနာပွား၊ ဝိပဿနာနဲ့ဆို ရုပ်နာမ်မြင်အောင် ရှု၊ လိုရင်းက အဲဒါပါပဲ။

မတင့်တယ်၊ ရွံစရာလို့ ရှုမြင်တဲ့ အသုဘ ဘာဝနာကို ကိုယ်တွင်းကိုယ်ပ နှစ်ဌာနမှာ ရှုနေရင် ကာမစ္ဆန္ဒနီဝရဏ မဝင်တော့ဘူး။ "ငါ၏ ကိုယ်မှာ မွေးတာကြိုင်တာ မရှိ။ ရွံစရာ အသိုးအပုပ်တွေ၊ နှပ်၊ တံတွေး၊ ပြည်၊ ချွေးတွေသာ ရှိတယ်"လို့

ကိုယ့်ကိုယ်ကို ဆင်ခြင်ပါ။ ချစ်ခင်နှစ်သက်မိတဲ့ သူများခန္ဓာမှာလည်း ဒါတွေပဲလို့ နှလုံးသွင်းပါ။

ဖူးယောင်ပုပ်ပွ ပိုးလောက်တွေ ရှိနေတဲ့ အသုဘအလောင်းကောင်တွေ မျက်စိထဲ စွဲနေအောင် လေ့ကျင့်ပါ။ "ငါလည်း တစ်နေ့ ဒီလိုပဲဖြစ်ရမယ်။ သူလည်း တစ်ချိန်မှာ ဒီလိုသာ ဖြစ်လာမယ်"လို့ ရှုံ့ဖွယ်အသုဘကိုရှုနေတာ အသုဘသမထနဲ့ ကာမစ္ဆန္ဒတွေကို ခွာနေတာပေါ့။

ဣန္ဒြေ ၆-ပါး၊ တံခါးခြောက်ပေါက်မှာ သတိကပ်ပြီး မြင်သမျှ ကြားသမျှ နံသမျှ စားသမျှ ထိတွေ့သမျှကို ရုပ်လို့ ရှုနေ၊ သိသမျှ ကြံသမျှကို နာမ်လို့ ရှုနေတာ ဝိပဿနာနဲ့ ကာမစ္ဆန္ဒဝင်ပေါက်တွေကို ပိတ်ထားလိုက်တာပါ။

အဆီအဆိမ့်တွေ အစားများရင်, အတိုင်းထက် အလွန်စားရင် ကာမစ္ဆန္ဒတွေ ဝင်နိုင်ပါတယ်။ ရာဂဖြစ်စေတဲ့ စကားမျိုး၊ ကာမရာဂ အားပေးတဲ့ စကားမျိုး ပြောနေရင် ကာမစ္ဆန္ဒတွေ ဝင် နိုင် ပါတယ်။ အပေါင်းအသင်း ဆွဲဆောင်မှုကြောင့်လည်း ကာမနယ်ထဲ ရောက်သွားနိုင်ပါတယ်။

သတိထားပြီး ရှုပွားနေ၊ ဆင်ခြင်ပြီး စားသောက်နေထိုင် ပေါင်းသင်းရင် ကာမစ္ဆန္ဒတွေ ကင်းစင်နိုင်ပါတယ်။ တရားတွေထင်မြင်သိရှိနိုင်ပါတယ်။

## စာ မမေ့တဲ့အကြောင်း

မြတ်စွာဘုရားဟာ နီဝရဏတွေ ကင်းစင်နေရင် စာတွေ မမေ့တဲ့အကြောင်း၊ ကာမစ္ဆန္ဒကင်းနေရင် မကျက်မှတ်ပေမယ့်, ပစ်ထားပေမယ့် စာတွေပျောက်မသွားတဲ့အကြောင်း ဆက်ပြီး ဟောကြားပါတယ်။

**"သင်္ဂါရဝပုဏ္ဏား၊ ဥပမာပြရရင် နနွင်းတို့၊ ချိပ်တို့၊ မဲနယ်တို့ မဆိုးထားတဲ့ ရေမှာ ငုံ့ကြည့်ရင် မျက်နှာရိပ်ကိုမြင်ရသလိုပါပဲ၊ ကာမရာဂ၊ ကာမစ္ဆန္ဒ ကင်းနေရင် အကျိုးရှိ-မရှိ ခွဲခြားသိပါတယ်။ မေ့လျော့မှုတွေကင်းပါတယ်။**

**နှစ်ပေါင်းများစွာ မရွတ်ဆိုပေမယ့် မှတ်ဉာဏ်ထဲမှာ စာတွေ ပျောက်မသွားပါဘူး။ ရွတ် အံနေရင်တော့ ဘာပြောစရာရှိတော့မလဲ။"**

ဒါဟာ စာမမေ့တဲ့အကြောင်းပါ။ မှတ်ဉာဏ်တွေ ကောင်းစေကြောင်းပါ။ တရားတွေကို မမေ့တာ၊ အရှုအမှတ်တွေ မပျောက်တာဟာ ကာမစ္ဆန္ဒ ကာမရာဂကင်းနေလို့ပါ။

## တရားတိုးတက်လာ

ဘုန်းကြီးတို့ပရိသတ် ကာမဂုဏ်အာရုံတွေက လွတ်မြောက်နေတဲ့အခါ စိတ် ကြည်လင်ပါတယ်။ သန့် ရှင်း ပါ တယ်။ အရောင် ဆိုးမထားတဲ့ရေလို အညစ်အကြေးကင်းစင် ကြည်လင်လို့ တရားတွေ ထင်မြင်နိုင်တယ်ပေါ့။

ရှုမှတ်နေတဲ့ ရုပ်နာမ်အာရုံကို ရှင်းရှင်းလင်းလင်း တွေ့မြင် ရှုမှတ်နိုင်တဲ့အတွက်အရှုဉာဏ်တွေ တိုးတက်ပါပြီ။ ဘယ်လိုဆွဲဆောင်မှုတွေကိုမှ မမက်ပဲ တည့်တည့်မတ်မတ် သွားနိုင်တာမို့ ခရီးသွက်ပါတယ်။

ကိလေသာရဲ့ထိုးနှက်ချက်တွေကို အရှုအမှတ် တံတိုင်းနဲ့ ကာထားတဲ့အတွက် ဝိပဿနာစိတ်ဟာ

လုံခြုံဘေးကင်းနေပါတယ်။ လိုရာခရီးကို အလျင်အမြန် တွင်တွင်ကြီး ရှုမှတ်ပြီး ခရီးနှင်တဲ့အတွက် တစ်ခဏချင်းမှာ တရားရနိုင်ပါတယ်။

## ကာမရာဂ ကင်းပါက

တစ်ခါက မထင်မရှား ရဟန်းတစ်ပါးဟာ ဒန်ပူလုပ်ဖို့အတွက် ကိုရင်တစ်ပါး အဖော်ခေါ်ပြီး တောထဲ ထွက်ခဲ့ပါတယ်။ ကြိုက်နှစ်သက်တဲ့သစ်သား မရသေးလို့ ရှာကြတဲ့အခါ ကိုရင်က တောလမ်းအတိုင်း ဝင်သွားတယ်။ မထင်မှတ်ဘဲ ကိုရင်လေးက တောထဲမှာသေပြီးပုပ်ပွနေတဲ့အလောင်းကောင်ကြီးနဲ့ ပက်ပင်းတွေ့ရပါရောတဲ့။

ကိုရင်ဟာ အသုဘကောင်ကြီး ရပ်ကြည့်ပြီး အသုဘဘာဝနာ ရှုပွားလိုက်တာ တစ်ခဏအတွင်း ပထမဈာန် ရသွားတယ်။ အသုဘဈာန် အခြေခံပြီး ကာမစ္ဆန္ဒနီဝရဏတွေ ကင်းရှင်းနေတဲ့စိတ်နဲ့ ခန္ဓာတွင်း ဉာဏ်သွင်း ရုပ်နာမ်တရား ရှုပွားလိုက်တာ အနာဂါမ် ဖြစ် သွား ပါ တယ်။ အရဟတ္တမဂ်၊ အရဟတ္တဖိုလ်အတွက် ဆက်ရှုနေတုန်း- “ကိုရင်ရေ

ကိုရင်”လို့ လှမ်းခေါ်သံကြားလိုက်တော့ ရှိသေစိတ်နဲ့ ကမ္မဋ္ဌာန်းဖျက်ပြီး ထွက်လာခဲ့ရတယ်။

ကိုရင်ပျောက်ရှာနေတဲ့ ရဟန်းနား ရောက်တဲ့အခါ “အရှင်ဘုရား ဒီဘက် ခဏ ကြွပါ”လို့ ပင့်ပြီး အသုဘကောင်ကြီးကို လက်ညှိုး ထိုး ပြ လိုက် ပါတယ်။

ရဟန်းတော်ကလည်း အသုဘရှု၊ ဝိပဿနာတက်လိုက်တော့ အနာဂါမ် ဖြစ်ပြန်ပါတယ်။ ကာမရာဂကင်းတဲ့အတွက် တရားရသွားကြတဲ့ သာဓကပါ။ (မဇ္ဈိမအဋ္ဌကထာ)

သမထဝိပဿနာ နှစ်ဖြာသော တရားတွေဟာ ကာမစ္ဆန္ဒ ကင်းနေတဲ့အချိန်မှာ တဟုန်ထိုးတိုး တက်ပြီး မဂ်ဉာဏ်ဖိုလ်ဉာဏ် နိဗ္ဗာန်တရားတွေကို ဖြစ်စေတယ်လို့ ပြတာပါ။

## မချမ်းသာတဲ့အကြောင်း

ဘုန်းကြီးတို့ပရိသတ်- လောကထဲ နေကြတဲ့အခါ မချမ်းသာတဲ့အကြောင်းကို သိပါမှ ရှောင်ရှားနိုင်ပါမယ်ပူပန်ဆင်းရဲကြောင်းတွေကိုပယ်နိုင်ပါမှ

ချမ်းသာပါမယ်။ သတ္တဝါတွေ ပူပန်နေရတာဟာ ကာမဂုဏ်အတွက်ပါ။ နေ့ညမရွေး ပြေးလွှားနေရတာ၊ နေပူမိုးရွာ မရှောင် ရုန်းကန်နေကြရတာဟာ ကာမဂုဏ်အတွက်က အဓိကပါ။

မရှိတော့လည်း မရှိလို့ ဆင်းရဲ၊ ရှိပြန်တော့လည်း ရှိလို့ ကြောင့်ကြ၊ ဘယ်အချိန်မှမသက်သာဘူးနော်။ ကာမစ္ဆန္ဒ ပယ်မထားရင် ဘယ်သူမှ မသက်သာဘူး။

သားသမီးရှိသူက သားသမီးအတွက် ပူ၊ ပစ္စည်း ရှိသူက ပစ္စည်းကြောင့် ပူ၊ ရာထူးအာဏာ ရှိသူက ရာထူးအာဏာအတွက် ပူပြီးနေကြတယ်။ အေးချမ်းမှု မရဘူး။ စိတ်ထဲမှာ မငြိမ်းချမ်းကြဘူး။

ကာမဂုဏ်တွေကြားထဲမှာ မီးပုံကြီး ဖက်နေရသလို ပူနေတာမို့ ယပ်ခတ်လည်း မအေး၊ လေအေးစက်လည်း မနိုင်၊ ချွေးတွေဖြိုင်ဖြိုင်ကျရတယ်။ အဲဒါဟာ "ဘယ်သူ့ကြောင့်လဲ၊ ဘာအတွက်လဲ"လို့ ကြည့်တော့ လိုချင်မှု၊ စွဲလမ်းမှု တပ်မက်မှုဆိုတဲ့ ကာမစ္ဆန္ဒက အဓိက တရားခံပါ။

# ချမ်းသာနေတယ်

ဗုဒ္ဓမြတ်စွာ အာဠဝီပြည် ယင်းတိုက်တောထဲ သီတင်းသုံးနေစဉ်မှာ ဟတ္ထကအာဠဝကမင်းသား ဟာ နံနက်စောစောမှာ ကျန်းမာရေးအတွက်လမ်း လျှောက်ထွက်ခဲ့တယ်။

ယင်းတိုက်တောထဲမှာ သစ်ပင်ရင်းအောက် သစ်ရွက်လေးတွေ ခင်းပြီး သီတင်းသုံးနေတဲ့ မြတ်စွာဘုရားကို မြင်တော့ အံ့ဩသွားတယ်။ "စောစော စီးစီး မြောက်လေတွေ တိုက်လို့ ချမ်းအေးနေတဲ့ ဆောင်းရာသီကြီးမှာ အမိုးမရှိ၊ အကာမရှိ သစ်ရွက် ခင်းပေါ် ဘာလို့ နေရတာပါလဲ"လို့ စုံစမ်းချင်လို့ ရှိခိုးဦးချလျှောက်ထားပါတယ်။

"အရှင်ဘုရား၊ ချမ်းသာစွာ အိပ်စက်ရပါရဲ့ လား ဘုရား"တဲ့။

သူ့အထင်က စိတ်ညစ်စရာတွေရှိနေလို့ တစ်ပါး ထဲ လာနေတာလား၊ ပူပန်စရာတွေ များနေလို့ လေ တဟူးဟူးနဲ့ အေးစက်နေတာကို မေ့လျော့နေတာ လားလို့ ထင်နေပုံရပါတယ်။

မြတ်စွာဘုရားရှင်က "မင်းသား၊ ချမ်းချမ်းသာ သာ အိပ်စက်ရပါတယ်"လို့ ဖြေတော်မူပါတယ်။

## အံ့ဩစရာကောင်း

မြတ်စွာဘုရားရဲ့ အဖြေကို မင်းသား နား မလည်ဘူး။ ဘုန်းကြီးတို့ပရိသတ် မင်းသားမှာ နား မလည်နိုင်အောင် ဖြစ်တယ်။ ဒီလောက်ဆင်းဆင်း ရဲရဲနေရတာ ဘယ်လိုချမ်းသာနေသလဲလို့ သဘော မပေါက်ရှာဘူး။

"အရှင်ဘုရား- ဒီအချိန်ဟာ အင်မတန် အေးတဲ့ ဆောင်းလရာသီ ဖြစ်ပါတယ်။ ရိုး တွင်းခြင်ဆီ ခိုက်မတတ်ကို အေးတဲ့ရက်လည်း ဖြစ်ပါတယ်။ အရှင်ဘုရားရဲ့ နေရာက နွား ခြေရာခွက်တွေနဲ့ မညီမညာ ကြမ်းတမ်းတဲ့ နေရာပါဘုရား။"

"အောက်ကလည်း သစ်ရွက် အခင်း၊ အပေါ်က သစ်ရိပ်ကလည်း ကျဲပါတယ်။ လေ တွေ တဟူးဟူးတိုက်နေချိန်မှာ ခြုံထားတာက သင်္ကန်းပါးနဲ့ပါဘုရား။ ဒါတောင်မှ "ချမ်းချမ်း

သာသာ အိပ်ရပါတယ်”လို့ မိန့်တော်မူတာ ဟာ အင်မတန် အံ့ဩစရာ ကောင်းပါတယ် ဘုရား”

မင်းသားဘက်က ကြည့်ရင်တော့ အံ့ဩစရာပါ။ သူ့အနေနဲ့ဆို ဘယ်လိုမှ အိပ်ပျော်နိုင်စရာမရှိလို့ ထူးခြားနေပါတယ်။ မြတ်စွာဘုရားမှာ ဒီလို နေရတာတောင် ချမ်းသာစွာ အိပ်နိုင်တယ်ဆိုတော့ အဆန်းတကြယ် ဖြစ်နေပါတယ်။ မယုံနိုင်အောင် ဖြစ်နေပါတယ်။

## မြတ်စွာဘုရား မေး

“မင်းသား သင့်ကို ငါ မေးမယ်။ သင် စိတ်တိုင်းကျသာ ဖြေ။ ဒီလောကမှာ ပစ္စည်း ဥစ္စာ ချမ်းသာကြွယ်ဝတဲ့ လူတစ်ယောက်ဟာ လှပတဲ့ လေလုံတိုက်ကြီးထဲမှာ အဖိုးတန် ကော်ဇောတွေခင်းထားတယ်။ ကော်ဇောပေါ်မှာ နူးညံ့တဲ့အခင်းကို ထပ်ခင်း၊ အပေါ်မှာ ကုတင်ကြီးခင်းပြီးနေတယ်။ ဆီမီးတွေ ထိန်အောင်ထွန်းပြီး မယားလေးယောက်ရဲ့ အပြုစု

ကို ခံနေတယ်ဆိုရင် ချမ်းသာစွာ အိပ်ရ မလား၊ မချမ်းမသာ အိပ်ရမလား. . ဖြေပါ။”

“အရှင်ဘုရား. . ချမ်းသာစွာ အိပ်ရပါမယ်။”

“မင်းသား. . သင် အသေအချာစဉ်းစားပါ။ သူ့မှာ လိုချင်တပ်မက်မှုတွေ ဝင်ရောက်လာတဲ့အခါ ကိုယ်စိတ်နှစ်ပါး ပူလောင်တာ မဖြစ်ဘူးလား။”

“ဖြစ်ပါတယ် အရှင်ဘုရား”

“မင်းသား ကိုယ်စိတ်နှစ်ဖြာ ပူလောင်သူ ဟာ ဆင်းရဲစွာ အိပ်ရတယ် မဟုတ်လား”

“မှန်ပါတယ်၊ဆင်းရဲပါတယ်အရှင်ဘုရား”

“မင်းသား တပ်မက်မှုတွေနဲ့ ပူလောင်နေသူဟာ ဆင်းရဲစွာ အိပ်ရတယ်။ အဲဒီတပ်မက်မှု ကာမရာဂကို ငါဘုရား ပယ်ထားပြီးပြီ၊ အမြစ်ဖြတ်ထားပြီ။ ဒါကြောင့် ရာသီဥတုကြမ်းပေမယ့် နေရာထိုင်ခင်း ဆင်းရဲပေမယ့် ချမ်းသာစွာ အိပ်ရပါတယ်။”

-လို့ မိန့်ကြားတော်မူပါတယ်။ ပြီးတော့ တရားဆက်ဟောတော်မူပါတယ်။

သဗ္ဗဒါ ဝေ သုခံ သေတိ၊
ဗြာဟ္မဏော ပရိနိဗ္ဗုတော။
ယော နလိမ္ပတိ ကာမေသု၊
သီတိ ဘူတော နိရူပဓိ။

ဗြာဟ္မဏော- မကောင်းမှုကို အပ,ပြုပြီးသော၊ ပရိနိဗ္ဗုတော- ကိလေသာ ပရိနိဗ္ဗာန် ဝင်စံတော်မူပြီးသော၊ သီတိဘူတော- ငြိမ်းအေးသောဖြစ်ခြင်းရှိသော၊ နိရူပဓိ- ကိလေသာတည်းဟူသော တည်ရာမရှိသော၊ ယော- အကြင်ရဟန္တာအရှင်မြတ်သည်၊ ကာမေသု- ငါးပါးအာရုံ ကာမဂုဏ်တို့၌၊ န လိမ္ပတိ- လိမ်းကျံကပ်ငြိခြင်း မရှိ။ သော- ထိုရဟန္တာအရှင်မြတ်သည်၊ သဗ္ဗဒါ- နေ့ရောညဥ့်ပါ အခါခပ်သိမ်း၊ ဝေ- စင်စစ် ဧကန် အမှန်အားဖြင့်၊ သုခံ သေတိ- ချမ်းသာစွာ အိပ်ရနေရ၏။

သဗ္ဗာ အာသတ္တိယော ဆေတွာ၊
ဝိနေယျ ဟဒယေ ဒရံ။
ဥပသန္တော သုခံ သေတိ။
သန္တိံ ပပ္ပုယျ စေတသော။

သဗ္ဗာ- ကြွင်းမဲ့ဥဿုံ အလုံးစုံကုန်သော၊ အာသတ္တိယော- ကာမဂုဏ်အာရုံတို့ကို၊ ဆေတွာ- ပယ်ဖြတ်သုတ်သင်ပြီး၍၊ ဟဒယေ- စိတ်နှလုံး၌၊ ဒရံ- ပူပန်ခြင်းကို၊ ဝိနေယျ- မကပ်မရောက် ပယ်ဖျောက်၍၊ ဥပသန္တော- အရာခပ်သိမ်း၊ အေးငြိမ်းသော ရဟန္တာအရှင်မြတ်သည်၊ သန္တိံ- အေးရာအမှန် မြတ်နိဗ္ဗာန်သို့၊ စေတသော- စိတ်ဖြင့်၊ ပပ္ပုယျ- ရောက်၍၊ သုခံ သေတိချမ်းသာစွာအိပ်ရနေရ၏။

(ဟတ္ထကသုတ္တံ)

## စွန့်ပယ်လျှင် ချမ်းသာ

အလုံးစုံသော ကာမဂုဏ်တို့ကို ပယ်စွန့်တော်မူပြီးတဲ့ မြတ်စွာဘုရားရှင်ဟာ ရာသီဥတု အပူအအေးကြောင့်လည်း ဒုက္ခမရောက်တော့ဘူး။ ဆင်းရဲတာ ချမ်းသာတာ မခွဲခြားတော့ဘူး။ ကာမဂုဏ်တွေ ပယ်ပြီးလို့ ထာဝစဉ် ချမ်းသာနေပါတယ်။

ကိုယ်က အကောင်းထင်၊ ချမ်းသာလို့ မြင်တဲ့ ကာမဂုဏ်တွေဟာ တကယ်ကျတော့ ကောင်းကျိုးမပေး၊ ချမ်းသာမပေးပါဘူး။ တွယ်တာတတ် နှစ်

သက်တတ်တဲ့ ကာမရာဂ ကာမစ္ဆန္ဒကို စွန့်ပယ်နိုင်ရင် ပယ်နိုင်သလောက် ချမ်းသာကြမှာပါ။

ကာမဂုဏ်တွေ ပယ်စွန့်မှ အမှန်တကယ် ချမ်းသာတဲ့ တရားချမ်းသာတွေ ဝင်ရောက်ခွင့် ရမှာပါ။ ချမ်းသာစစ် မဂ်ဖိုလ်နိဗ္ဗာန်ကို ဘုန်းကြီးတို့ပရိသတ် ရောက်ရှိကြရမှာပါ။ ဒါကြောင့် ကာမစ္ဆန္ဒနီဝရဏ ဟာ တရားမရတဲ့အကြောင်းတစ်ပါးလို့ ပရိသတ် မှတ်ထားလိုက်ကြပါ။

❖ ❖ ❖

# “ဗျာပါဒ နီဝရဏ”

## ဗျာပါဒ နီဝရဏ

စိတ်ဆိုးမှု၊ အမျက်ထွက်မှု၊ ဒေါသဖြစ်မှုက ဗျာပါဒနီဝရဏပါ။ဗျာပါဒဆိုတာကဒေါသတရား၊ ဒေါသတွေနဲ့ မွန်နေတာ။ အလိုမကျအောင် စိတ်တိုင်းမကျအောင် ဖြစ်နေတာသည် ဗျာပါဒနီဝရဏပါ။

မှတ်မိအောင် လိုက်ဆိုကြည့်ပါ။

### * စိတ်ဆိုးဒေါသ အမျက်ထွက်က ဗျာပါဒ မည်လေသည်။

မြတ်စွာဘုရားက-ပုဏ္ဏားကြီးကို စာမရအောင် မေ့ပျောက်သွားအောင် ပြုနေတဲ့ နောက်နီဝရဏ တစ်မျိုးက **‘ဗျာပါဒ နီဝရဏ’**လို့ မိန့်ကြားပါတယ်။

**"သင်္ဂါရဝပုဏ္ဏား- ဗျာပါဒတရားတွေ ဝင်ရောက်ဖိစီးလာတဲ့အခါမှာ သင် ကျက်မှတ်နေ တဲ့ ဗေဒင်သုံးပုံ တွေ ဟာ တတွတ် တွတ် နှုတ် က ရွတ်နေပေမယ့် ပျောက်ဆုံးကုန်လိမ့်မယ်။"**

**"ဒေါသဗျာပါဒတွေ ဝင်ရောက်လာပြီဆိုရင် ဘယ် လောက် ကျက် ကျက် စာတွေ မရတော့ ဘူး။ ကိုယ့်အကျိုး သူ့အကျိုးတောင် မသိတော့ ဘူး။ ဒေါသတွေ ကင်းနေချိန်မှာ ကျက်မှတ်လိုက်စမ်းပါ။ အလွယ်လေးနဲ့ ရလိမ့်မယ်။ ကျက်ပြီးသားတွေလည်း မ မေ့ ပျောက် တော့ ဘူး။"**

## ဒေါသဝင်လာရင်

ဘုန်းကြီးတို့ပရိသတ်- တရားအားထုတ်ချိန်မှာ ဒေါသတွေဝင်လာတယ်။ တစ်စုံတစ်ခုကြောင့် စိတ်အလိုမကျဘူး။ တစ်စုံ တစ်ယောက်ကြောင့် စိတ်အနှောင့်အယှက်တွေ ဖြစ်နေတယ်ဆိုရင် တရား ရှုမှတ်လို့ မရဘူး။ ရှုပွားလို့ကို မရတော့ဘူး။

ဘာကို စိတ်နဲ့မတွေ့မှန်းမသိ တစ်ခါတလေ ဖြစ်နေတယ်။ သူများကို မဟုတ်တောင် ကိုယ့်ကို ကိုယ်မကျေမနပ်ဖြစ်နေတယ်။ "ငါ ဒီလောက်အား ထုတ်နေတာတောင် စိတ်က ဘာလို့ မငြိမ်ရတာ လဲ။ ဘာဖြစ်လို့ အားထုတ်လို့ မရတာလဲ။ သူများ တွေကျတော့ ရတယ်။ ငါ့ကျတော့ မရဘူး"လို့ ကိုယ့် ဖာသာကိုယ် စိတ်တိုနေတယ်။ ဒေါသတွေ ဖြစ်နေ တယ်။

မသိမသာဖြစ်စေ၊ သိသိသာသာဖြစ်စေ။ ဒေါသ ဖြစ်နေ ကသိကအောက်ဖြစ်နေရင်လည်း တရားရ ဖို့ မလွယ်တော့ဘူး။ တရားမရအောင် ဒေါသက တားနေတာပါ။ ဗျာပါဒနီဝရဏက တရားဖြစ်ခွင့်ကို ပိတ်ပင်ထားတာပါ။ ရှူးရှူးရှဲရှဲနဲ့ ထပေါက်ကွဲမှ ဒေါသမဟုတ်ဘူးနော်။ သိမ်မွေ့တဲ့ဒေါသ အနုစား ဒေါသကလည်း ရမယ့်တရားကို တားမြစ်တာပါပဲ။

## ကိုယ့်ကိုကိုယ် ဖျက်ဆီး

တရားမရအောင် သူများက ဖျက်ဆီးတာ မဟုတ်ဘူး။ ကိုယ့်ဒေါသက ကိုယ့်တရားကို ပြန်ပြီး ဖျက်ဆီးလိုက်တာ။ ကိုယ့်မှာ ရလာဖြစ်လာမယ့်စျာန်

မဂ်ဖိုလ်တရားတွေဟာ ကိုယ့် ဒေါသဗျာပါဒကြောင့် ပျောက်ပျက်သွားရတာပါ။

ဘုန်းကြီးတို့စာပေထဲမှာ ဥဒ္ဒုမ္ဗာယိကဖား ဆိုတာတွေ့ရတယ်။ ဖားခုံညင်းနဲ့သဘောချင်း ဆင်ပါတယ်။ အရွယ်အစားက သိပ်မကြီးဘူး။ လက်သည်းခွံ၊ ခြေသည်းခွံသာသာလောက်ပဲ။ သစ်ရွက်ကြားခြုံနွယ်ကြားမှာ နေတတ်တယ်။

အဲဒီဥဒ္ဒုမ္ဗာယိကဖားကို တစ်ခုခုနဲ့ တို့လိုက်ရင် ထိလိုက်ရင် ခန္ဓာကိုယ်က ကြီးလာတယ်။ နည်းနည်းတို့ နည်းနည်းကြီးနဲ့ ဥသျှစ်သီးလောက်ကိုဖြစ်လာတာ။ အဲဒီလိုဖြစ်ရင် လက်ခြေတွေ ကားပြီး ပက်လက်လန်နေလို့ မသွားနိုင်တော့ဘူး။ မလှုပ်ရှားနိုင်တော့ဘူး။ ကျီးကန်းတွေ၊ သိမ်းတွေ စွန်တွေရဲ့ အစားခံရဖို့ ဖြစ်သွားတယ်။ အစာဖြစ်သွားတယ်။

သူ့ဒေါသက သူ့ကို နှိပ်စက်လိုက်တာ။ တို့တိုင်း ထိတိုင်း ဒေါသဖြစ်၊ ဆတ်ဆတ်ထိမခံနိုင်တဲ့ ဒေါသကြောင့် ဒုက္ခရောက်ရတာ။ ဘုန်းကြီးတို့ပရိသတ်-ဒေါသရဲ့သဘောက ဝင်လာကာစ ပယ်နိုင်ရင်ပယ်၊ မပယ်နိုင်လို့တော့ တဖြည်းဖြည်း ကြီးထွားလာရင်

တော့ ဒုက္ခပေးပြီပေါ့။ ဇက်ကြိုးလွတ်တဲ့မြင်းလိုထင်ရာစိုင်းပြီပေါ့။

## အဆင့်ဆင့်တိုးလာ

ဒေါသဗျာပါဒဟာ ဝင်လာကာစမှာ စိတ်ကို နှောင့်ယှက်တယ်။ ကြည်နေတဲ့စိတ်တွေ နောက်သွားပြီ။ အေးချမ်းနေတဲ့စိတ်တွေ ပူလောင်လာပြီ။ ဒါ ပထမဆင့်။ စိတ်ကို ဖျက်ဆီးတဲ့အဆင့်။

မနှိမ်နိုင်၊ မပယ်နိုင်ရင် နောက်တစ်ဆင့်ရောက်လာတယ်။ အသားတွေ ဆတ်ဆတ်တုန်လာတယ်။ နှုတ်ခမ်းတွေ တရှုရှုဖြစ်လာတယ်။ တစ်ကိုယ်လုံး ပူလောင်ပြီး ချွေးတွေပြန်လာတယ်။ ဒီအဆင့်မှာ ပယ်နိုင်ရင် တော်သေးတယ်။ နှိမ်နင်းလိုက်ရင် မဆိုးသေးဘူး။

နောက်တစ်ဆင့်ဆို မရတော့ဘူး။ "နင်ပဲ ငဆ ပြောလာပြီ။ ဆဲရေးတိုင်းထွာတာ ဖြစ်လာပြီ။ ပါးစပ်ကနေ အယုတ္တအနတ္တတွေ ထွက်လာပြီပေါ့။ ရှက်ရမှန်း ကြောက်ရမှန်း မသိတော့ဘူး။ ဒီအဆင့်မှာ

ဝစီကံလောက် ဖြစ်ပြီ။ ဒီမှာတင် ရပ်နိုင်ရင် ရပ်၊ မရပ်နိုင်ရင် ရှေ့ဆက်အုံးမယ်။

ဝစီကံက တစ်ဆင့်တက်တော့ ကိုယ်ထိလက်ရောက် ကာယကံမြောက်ပြီ။ ရိုက်တာနှက်တာ ထိုးကြိတ်တာ ခုတ်ထစ်တာတွေရောက်လာပြီ။ ရာဇဝတ်မှုတွေ ဖြစ်တော့မယ်။ သတ်တာဖြတ်တာတွေ ဆက်လာတော့မယ်။ ထောင်တန်းကျဖို့ အချုပ်အနှောင်ခံရဖို့ အပြစ်ပေးခံရဖို့တွေ ဖြစ်လာပြီပေါ့။ သူသေကိုယ်သေ သတ်တဲ့အထိ ရောက်ရပြီပေါ့။

ခုနက ဥဒ္ဒုမ္ဗရမာယိကဖားလိုပဲ ဒေါသကြောင့် နောက်ဆုံးမှာ သေကျေပျက်စီးရတယ်။ ဒေါသဗျာပါဒဟာ တစ်ဆင့်ထက်တစ်ဆင့် ကြီးထွားလာတယ်။ အသိဉာဏ်နဲ့ထိန်းပြီး ဒေါသကို ချုပ်ကိုင်မထားရင် တော့ ခုဘဝ နောင်ဘဝအကျိုးတွေ အကုန်ပျက်ရပါတော့တယ်။

## ဒေါသူပုန်ထ

ဘုန်းကြီးတို့ပရိသတ် ဒေါသ ထွက်တာကို ဒေါသူပုန်ထတယ်လို့ ပြောကြတယ်။ ဒေါသနဲ့ သူပုန်

ကို ထပ်တူပြုတင်စားတဲ့ သဘောပေါ့ သိပ်မှန်တဲ့ တင်စားချက်ပါ ဒေါသကို သရုပ်ဖော်ရာမှာ သိပ်ကို ပေါ်လွင်သွားပါတယ်။

ဆိုးသွမ်း သောင်းကျန်းတဲ့ သူပုန်သူကန်တွေဟာ အဖျက်သမားတွေပါ။ ဖျက်ဆီးရေးဘက်ကို သာ ဦးတည်ကြတာပါ။ ဒေါသကလည်း အဖျက်သမားပါပဲ။ ဒေါသမဖြစ်ခင်က ရှိနေတဲ့ အေးချမ်းတဲ့စိတ်ကိုလည်း ဖျက်ဆီးလိုက်တယ်။ ဒေါသမဖြစ်ခင် ရှိနေတဲ့ ကုသိုလ်စိတ်တွေကိုလည်း ဖျက်ဆီးတယ်။ ကောင်းတဲ့ စိတ်ကလေးကိုလည်း ဖျက်ဆီးလိုက်တယ်။

ကောင်းတဲ့တရားမှန်သမျှ ဘာမှမကျန်အောင် ဖျက်ဆီးလိုက်တာသည် ဒေါသ၊ ကောင်းတဲ့ ကိုယ်, နှုတ်, စိတ်တွေ ဘာတစ်ခုမှ မကျန်ရအောင် ပျက်စီးစေတာဟာ ဒေါသတွေပါ။ ဗျာပါဒနီဝရဏပါ။

ဘုန်းကြီးတို့ပရိသတ် - တရားရှုမှတ်လို့ ဖြစ်နေတဲ့ သူတော်ကောင်းတရားတွေ၊ ဖြစ်လာမယ့် သူတော်ကောင်းတရားတွေ အားလုံး အစအနတောင် ရှာမရအောင် ကွယ်ပျောက်သွားစေတာဟာ ဒေါသပါပဲ။ ယဉ်ကျေးသိမ်မွေ့တာတွေ ရှိသေလေးစားမှု

တွေ သာယာအေးချမ်းမှုတွေဟာ ဒေါသသူပုန်သာ ထလိုက်ရင် အကုန်ပြောင်သွားပါပြီ။

## တစ်ခါက ရန်ပွဲ

ဘုန်းကြီးတို့က ခရီးသွားတဲ့သူ၊ နယ်တကာ လှည့်ပြီး တရားဟောရ၊ တရားပြရ သွားနေရတော့ တစ်ခါတလေမှာစကားများကြတာ၊ရန်ဖြစ်ကြတာ၊ ဒေါသတကြီး ထိုးကြိတ်ကြတာတွေ တွေ့ရမြင်ရပါ တယ်။

အဲဒီလိုဖြစ်တာတွေထဲမှာ သံဝေဂဖြစ်လောက် တဲ့ ရန်ပွဲက အမျိုးသမီးကြီးနှစ်ယောက် ရန်ဖြစ်ကြ တာပါ။ ခပ်လှမ်းလှမ်းက လူတွေ ဝိုင်းကြည့်နေတာ မြင်တော့ တစ်ခုခုပဲလို့တော့ ထင်လိုက်ပါတယ်။ ရန် ဖြစ်တယ်လို့တော့ မထင်ပါဘူး။ မျက်လှည့်ပွဲလား၊ ဆေးရောင်းတာလား တစ်ခုခုပဲလို့ ဘုန်းကြီး တွေး မိတယ်။

ကားက အဲဒီနားအဖြတ် မသိမသာလေး ကြည့်လိုက်တော့ ဘယ်ပြောကောင်းမလဲ၊ မိန်းမကြီး နှစ်ယောက် ရန်ဖြစ်ပြီး ကုတ်ဖွဲ့နေကြတာ။ ဆံပင် တွေ ဖရိုဖရဲ၊ ထမီမနိုင်၊ ပုဝါမနိုင်နဲ့။ ပါးစပ်က

လည်း တစ်ယောက်နဲ့ တစ်ယောက် တစ်တစ်ခွခွ ပြောနေကြသေးတယ်။

ဆွဲမရ၊ ဖြန်ဖြေမရလို့ထင်ပါရဲ့။ လူတွေက ဒီတိုင်း ဝိုင်းအုံကြည့်နေကြတယ်။ ဒါတောင် သူတို့နှစ်ယောက်မှာ ရှက်ရမှန်းမသိ၊ ကြောက်ရမှန်းမသိ။ ဘာမှ မသိတော့ဘူး။ သာမန်အချိန်မှာ မပြောဝံ့တာပြောကြ၊ ကြားဖို့ နားထောင်ဖို့ မသင့်တာတွေ အော်ကြဟစ်ကြ ဖြစ်နေလိုက်ကြတာ ငရဲပွက်နေသလိုပါပဲ။

လမ်းမကြီးပေါ်မှာ ရဟန်းသံဃာတော်တွေ၊ လူကြီးသူမတွေ ရှိမယ်။ မြင်သွားမယ်ဆိုတာလည်း ဂရုမစိုက်။ ဈေးသွားဈေးလာတွေ အမြောက်အမြား ဝိုင်းကြည့်နေတာလည်း မရှက်။ ဣန္ဒြေသိက္ခာတွေ ထည့်ကို မတွက်တော့တာ ဒေါသရဲ့လက်ချက်ပါ။

## ကမ္ဘာကို ဖျက်ဆီးတဲ့မီး

ဘုန်းကြီးတို့ပရိသတ် - ဒေါသမီးဟာ အင်မတန်ပူလောင်တယ်နော်။ ဒေါသဗျာပါဒဝင်လာရင် စိတ်တွေပူ ကိုယ်တွေကို ပူစေပါတယ်။ ဒေါသဖြစ်သူမှာ

မျက်နှာရဲလာကာ ဒေါသမီးတွေက နှလုံးသားကနေ တစ်ကိုယ်လုံး ပျံ့နှံ့သွားတာပါ။

လူနဲ့ လူ့ပတ်ဝန်းကျင် တစ်ခုလုံး ဟုန်းဟုန်း တောက်သွားအောင်လောင်စေနိုင်တာ ဒေါသမီးပါ။ တစ်ဦးနဲ့တစ်ဦး၊ လူမျိုးတစ်မျိုးနဲ့တစ်မျိုး၊ တစ်နိုင်ငံ နဲ့တစ်နိုင်ငံ အပြန်အလှန် တိုက်ခိုက်ပစ်ခတ်နေကြ တာ ဒေါသစနက်ပါ။

"ဒေါသကြီးလာကြရင် ကမ္ဘာကြီးဟာ လက်နက် တွေကြောင့် ပျက်စီးလိမ့်မယ်" ဆိုတဲ့အတိုင်း လက် နက်တွေ တီထွင်ကြ၊ စမ်းသပ်ကြ၊ အနိုင်လိုချင်လို့ ပစ်ခတ်ကြတာနဲ့ပဲ ဒေါသကြောင့် သေကြေကြပါ တယ်။ ကမ္ဘာ့ငြိမ်းချမ်းရေးကို ဖျက်ဆီးတာ၊ ကမ္ဘာ ကြီးကို ဖျက်ဆီးတာဟာ ဒေါသတရားပါပဲ။ ဗျာပါဒ နီဝရဏတရားပါပဲ။

## အိမ်ထောင်တွေ ပြိုကွဲ

အချစ်မေတ္တာနဲ့ တည်ဆောက်ထားတဲ့ အိမ် ထောင်စုတွေဟာ ဒေါသရောက်လာရင် ပြိုကွဲပျက် စီးသွားရပါပြီ။ အိမ်ထောင်ရှင်တွေမှာ တစ်ဦးနဲ့

တစ်ဦး၊ တစ်ယောက်နဲ့ တစ်ယောက် ဘယ်လိုမှ အကောင်း မမြင်ကြတော့ဘူး။ တစ်ဦးအပြစ်ကို တစ်ဦး ရှာကြံကြည့်ပြီး အပြစ်ကိုသာ မြင်ကြတော့တယ်။ ဆက်လက်ပြီး လက်တွဲလို့ ဘယ်လိုမှ မဖြစ်ကြတဲ့အတွက် လက်တွဲတွေ ဖြုတ်ကြရတယ်။

ကွာရှင်းကြ၊ ပြတ်စဲကြနဲ့ ကိုယ်ဆင်းရဲ၊ စိတ်ဆင်းရဲ ဖြစ်ကြတယ်။ ရည်မှန်းချက်တွေ ပျက်ပြီး စီးပွားတွေ ပျက်စီးကြတယ်။ အေးချမ်းသာယာမှုတွေ ဆိတ်သုဉ်းသွားပါတယ်။

ကြားထဲက အဖေ မစုံ၊ အမေ မစုံဘဝ ရောက်ကြရရှာတဲ့ မြေစာပင်သားသမီးတွေမှာလည်း စိတ်ဒဏ်ရာတွေ ခံစားကြရပါတယ်။ ဒေါသဟာ မီးလို ကူးစက်တာမို့ တစ်ဆင့်ပြီးတစ်ဆင့် ကူးသွားတာမို့ နီးစပ်ရာတွေပါပူလောင်ကာစိတ်မချမ်းမသာ ဖြစ်ကြရပါတယ်။ ဘယ်သူ့ကိုမှ ကောင်းကျိုးမပေးတာ၊ အကျိုးမဲ့ကို ဖြစ်စေတာဟာ ဒေါသပါ။

# မြွေပြိတ္တာကြီးတစ်ကောင်

ရာဇဂြိုလ်ပြည်မှာ မြတ်စွာဘုရား ဝါဆိုသီတင်းသုံးစဉ်က ဂိဇ္ဈကုဋ်တောင်ပေါ်မှာ အရှင်မောဂ္ဂလာန်နဲ့ အရှင်လက္ခဏ ရဟန္တာအရှင်မြတ်နှစ်ပါး တရားချမ်းသာနဲ့ အေးအေးဆေးဆေး သီတင်းသုံးနေကြပါတယ်။ နံနက်စောစောမှာ ဆွမ်းခံဝင်ရအောင် ပြန်ဆင်းလာကြတဲ့ အခါ လမ်းခုလတ်မှာ အရှင်မောဂ္ဂလာန်ဟာ ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ မြွေပြိတ္တာကြီးတစ်ကောင်ကို မြင်လိုက်ပါတယ်။

အဆမတန်ကြီးမားတဲ့ ခန္ဓာကိုယ်ကြီးမှာ နေရာအနှံ့ မီးစွဲလောင်တာ ခံနေရတဲ့ မြွေပြိတ္တာကြီးပါ။ ခေါင်းက မီးလျှံတွေက အမြီးကိုရောက်၊ အမြီးက မီးလျှံတွေက ခေါင်းကို ရောက်ပြီး တစ်ကိုယ်လုံး ပတ်ချာလည်အောင် မီးလောင်ခံနေရပါတယ်။ တလူးလူးတလိမ့်လိမ့်နဲ့ အော်ဟစ်ညည်းညူပြီး ဒုက္ခခံနေရရှာပါတယ်။

အဲဒီ မြွေပြိတ္တာကြီးကို မြင်တဲ့အခါမှာ အရှင်မောဂ္ဂလာန်အရှင်မြတ်ဟာ ထူးခြားတဲ့ အမူအယာနဲ့ ပြုံးတော်မူပါတယ်။ ဒါကို အရှင်လက္ခဏက မြင်

တော့ အကျိုးအကြောင်း မေးမြန်းတယ်။ အရှင်မောဂ္ဂလာန်က မဖြေသေးဘဲ "မြတ်စွာဘုရားရှေ့ကျမှ မေးလျှောက်ပါ"လို့ ပြောပြီး အရှင်မြတ်နှစ်ပါး ဆွမ်းခံဝင်ကြတယ်။

ဆွမ်းဘုဉ်းပြီးကြလို့ မြတ်စွာဘုရားထံမှောက် သွားရောက်ကြတဲ့ အချိန်မှာ အရှင်လက္ခဏက မနက်က ပြုံးတော်မူတဲ့အကြောင်း ပြန်မေးပါတယ်။ အရှင်မောဂ္ဂလာန်ကလည်း သူ မြင်ရ တွေ့ရတဲ့ အတိုင်း မြွေပြိတ္တာကြီး မီးလောင်ခံနေရပုံကို မြတ်စွာဘုရားရှေ့မှာ ဖြေကြားပါတယ်။

အဲဒီတော့ မြတ်စွာဘုရားက- "ငါဘုရားရှင်လည်း ဗောဓိမဏ္ဍိုင်မှာဒိဗ္ဗစက္ခုဉာဏ်ရကတည်းက မြင်ခဲ့ပါတယ်"လို့ မိန့်ကြားတော်မူပါတယ်။ အရှင်မြတ်များက "မြတ်စွာဘုရား ဘယ်လိုအကြောင်းကံကြောင့် ဒီလောက်ဆိုးတဲ့ ဒုက္ခတွေ ခံရပါသလဲဘုရား"လို့ လျှောက်ထားကြတဲ့အခါမှာ အတိတ်က သူ့ရဲ့အကြောင်းကံကို ဟောကြားတော်မူပါတယ်။

# ကြီးမားတဲ့ဒေါသ

ကဿပဘုရားရှင်ရဲ့ ကျောင်းဒကာကြီးတစ်ဦး ဖြစ်တဲ့ သုမနသေဌေးဟာ နေ့စဉ်နေ့တိုင်းလိုလို ဘုရားဖူးရအောင် တရားနာရအောင် ကျောင်းတော်ကို သွားလေ့ရှိပါသတဲ့။

တစ်နေ့မှာတော့ နောက်လိုက်နောက်ပါ အခြွေအရံများစွာနဲ့ မြတ်စွာဘုရား သီတင်းသုံးတဲ့ကျောင်းတော်ကို သွားကြတဲ့အခါ မနက်စောစောမှာ အိပ်ရာက မထသေးဘဲ ပုဆိုးခေါင်းမြီးခြုံ အိပ်နေတဲ့ လူတစ်ယောက်ကို တွေ့ကြပါတယ်။

အဲဒီလူကို မြင်တော့ သူဌေးကြီးက-

"မင်းတို့ အဲဒီလူကို ကြည့်ကြစမ်း၊ ခြေထောက်မှာလည်း ရွှံ့တွေအလိမ်းလိမ်းကပ်နေတယ်။ ဒီအချိန်ထိ အိပ်ရာမထသေးဘဲ ပုဆိုးခေါင်းမြီးခြုံပြီး အိပ်နေတယ်ဆိုတော့ တစ်ညလုံး လှည့်ပတ်ခိုးပြီး မိုးလင်းခါနီးမှအိပ်ရတဲ့ သူခိုးဖြစ်လိမ့်မယ်"လို့ ပြောလိုက်ပါတယ်။

သူဌေးကြီးရဲ့ ခန့်မှန်းချက်က မလွဲဘူးနော်။ အမှန်လည်း အဲဒီလူက သူခိုးပါပဲ။ ညက တစ်မြို့လုံး လှည့်ပတ်ခိုးတာ အဆင်မပြေလို့ ခေါင်းမြီးခြုံပြီး စိတ်ညစ်ညစ်နဲ့ အိပ်နေတာ။ သူခိုးကလည်း သူ့ကို သူခိုးလို့ပြောတာ မကြိုက်ဘူး။ စိတ်ဆိုးသွားတယ်။ ဒေါသဖြစ်သွားတယ်။

"ငါ့ကို သူခိုးလို့ပြောတာ ဘယ်သူလဲ၊ ငါ့အကြောင်း သိစေရမယ်"လို့ ခေါင်းမြီးခြုံ ဖွင့်ကြည့်ပြီး ကြိမ်းထားလိုက်တယ်။

သူဌေးကြီးက အမှတ်တမဲ့ပါပဲ။ သူခိုးကတော့ ညှိုးထားလိုက်ပြီ။ တငွေ့ငွေ့လောင်နေတဲ့ ဒေါသမီးကို မငြိမ်းနိုင်ဘူး။ သူဌေးကြီးကို "ဘယ်လိုဒုက္ခပေးရမလဲ၊ ပျက်စီးရာ ပျက်စီးကြောင်း ဘယ်လိုလုပ်ရမလဲ"လို့ အမြဲတမ်းကြံစည်စဉ်းစားနေတယ်။ အလစ်ချောင်းနေတယ်။ အခွင့်သာတာနဲ့ နှိပ်စက်မယ်ပေါ့။

## ဒုက္ခရောက်အောင်လုပ်

သူဌေးကြီးဟာ လယ်ဧကတွေ အမြောက်အမြား ပိုင်ဆိုင်ပါတယ်။ လယ်လုပ်ငန်းကိုလည်း

အကြီးအကျယ် လုပ်ကိုင်တယ်။ စပါးတွေ မှည့်ချိန် မှာဆို စပါးခင်းတွေဟာ ရွှေရောင်ဝင်းလို့ တမျှော် တခေါ်ကြီး ကြည့်လို့မဆုံးနိုင်အောင် ကျယ်ဝန်းပါ တယ်။ အောင်မြင်တဲ့စပါးနှံတွေကို ကြည့်ပြီး ပီတိ ဖြစ်နေတဲ့ သူဌေးကြီးကို စိတ်ဆင်းရဲစေရမယ်လို့ ညှိုးထားတဲ့သူခိုးဟာ လယ်ကွင်းကို မီးရှို့ပါတယ်။

စပါးတွေမရိပ်ခင် စိုက်ပျိုးထားပြီး စပါးတစ်စေ့ မှ မသိမ်းရသေးခင်မှာ လယ်ကွင်းတွေ မီးလောင် ပျက်စီးအောင် မီးရှို့လိုက်ပါတယ်။ တစ်ခင်းကနေ တစ်ခင်း မီးတွေကူးလို့ မငြိမ်းသတ်နိုင်တဲ့အတွက် စပါးတစ်စေ့မှမရဘဲ သူဌေးကြီးမှာ ဆုံးရှုံးရပါတယ်။

နောက်တစ်ခါ စိုက်ပျိုးရေးလုပ်ငန်းတွေမှာ သုံး ဖို့ သူဌေးကြီးဟာ ခိုင်းနွားတွေအမြောက်အမြားကို နွားခြံကြီးထဲမှာ မွေးမြူထားမှာပါ။ ထွန်ဖို့ယက်ဖို့ စပါးနယ်ဖို့ စပါးတိုက်ဖို့ပေါ့။

ဒေါသကြီးတဲ့သူခိုးဟာ ညတစ်ညမှာ အစောင့် တွေ မသိအောင် တိတ်တဆိတ်ဝင်သွားပြီး တွေ့ သမျှ နွားတွေကို ဓားနဲ့ခုတ်ပါတယ်။ မသွားနိုင်မလာ နိုင်အောင် အလုပ်မလုပ်နိုင်အောင် နွားတွေရဲ့ ခြေ ထောက်ကို ဓားနဲ့ခုတ်ပစ်ပါတယ်။

ဒါလောက်နဲ့တင်အားမရလို့ မကျေနပ်သေးလို့ လူအလစ်မှာ သူဌေးကြီးရဲ့အိမ် မီးလောင်အောင် မီးနဲ့ရှို့ပါတယ်။ ရှိသမျှပစ္စည်းတွေ မီးထဲပါပြီး ပျက်စီးကုန်ပါတယ်။ ဆုံးရှုံးကုန်ပါတယ်။

## စကားတစ်ခွန်းကြောင့်

သူဌေးကြီးကတော့ မသိရှာပါဘူး။ ဘယ်သူလုပ်တယ်ဆိုတာ မသိပါဘူး။ စပါးခင်းတွေ မီးလောင်၊ အိမ်တွေ မီးလောင်၊ နွားခြံထဲက နွားတွေအနာတရဖြစ်ရတာ အမှတ်မထင် သူ ပြောလိုက်တဲ့ စကားတစ်ခွန်းကြောင့်ဆိုတာ မရိပ်မိသေးပါဘူး။

ဒေါသဟာ ဘယ်လောက်ကြောက်စရာကောင်းတယ်ဆိုတာ ကြည့်ပါ။ "ဒီလူ သူခိုးဖြစ်မယ်"လို့ ပြောလိုက်တဲ့စကား၊ ဒီစကားကို ကြားတဲ့သူခိုးဟာ မခံနိုင်ဘူး။ ဒေါသဖြစ်တယ်။ နားထဲဝင်လာတဲ့အသံက ပျောက်သွားပေမယ့် စိတ်ထဲ ရောက်လာတဲ့ ဒေါသကမပျောက်တော့ မီးခိုးမဆုံး၊ မိုးမဆုံး လက်စားချေနေတာပါ။

တစ်ကြိမ်နဲ့ စိတ်မကျေ၊ နှစ်ကြိမ်နဲ့ စိတ် မပြေ တော့. . ခုနစ်ကြိမ်တိုင်အောင် စပါးခင်းတွေ မီးရှို့ ပါတယ်။ ခုနစ်ကြိမ်တိုင်တိုင် နွားခြံထဲဝင် နွားတွေ ခြေထောက်ကို ဓားနဲ့ခုတ်တယ်။ ခုနစ်ကြိမ် ခုနစ်ခါ တိုင်အောင် အိမ်ကို မီးရှို့ဖျက်ဆီးပါတယ်။

သူဌေးကြီးမှာ စီးပွားတွေပျက်စီး၊ အိုးအိမ်တွေ ပျက်စီးပေမယ့် တရားရှိတဲ့သူဆိုတော့ စိတ်မထိခိုက် ပါဘူး။ ခါတိုင်းလိုပဲ ဘုရားဖူး၊ တရားနာ အလုပ် မပျက် တရား မပျက်တဲ့အတွက် ရည်ရွယ်ချက် မအောင်သေးတဲ့သူခိုးဟာ မကျေနပ်ပါဘူး။

စိတ်ညစ်စိတ်ဆင်းရဲတာကို အရသာခံပြီး မြင် ချင်ကြည့်ချင်တဲ့အတွက် သူဌေးကြီးရဲ့အိမ်က အစေ အပါးတွေနဲ့ ချဉ်းကပ်ပေါင်းသင်းပြီး စုံစမ်းပြန်ပါ တယ်။

"အဆွေတို့ရဲ့ သူဌေးဟာ လူတစ်မျိုးပဲ နော်။ လယ်ယာစီးပွားတွေ၊ ဥစ္စာပစ္စည်းတွေ၊ အိုးအိမ်တွေကို မက်မောနှစ်သက်ပုံလည်း မရ ပါလား။ ဒီလောက် အကြိမ်ကြိမ် ပျက်စီး တာတောင် ဂရုမစိုက်ပါလား။ တန်ဘိုးထား

မြတ်နိုးပုံလည်း မရဘူး။ ဘယ်အရာကိုမှ နှစ်သက်တန်ဘိုးထားပါသလဲ”

-လို့ မသိမသာ ချဉ်းကပ်မေးမြန်းတဲ့အခါ အစေအပါး အလုပ်သမားတွေက ပြောကြပါတယ်။

“ကျွန်ုပ်တို့ရဲ့အရှင်သခင်သူဌေးကတော့ ပြောမနေပါနဲ့တော့၊ ပစ္စည်းဥစ္စာတွေ ဘာတစ်ခုမှ နှမြောစုံမက်တာ မဟုတ်ဘူး။ ရရ မရရ၊ ပျက်စီးစီး မပျက်စီးစီး ဂရုကိုမစိုက်ဘူး၊ သူ့စိတ်ထဲမှာ တစ်ခုပဲရှိတယ်။ သူ ဆောက်လှူထားတဲ့ ကျောင်းတော်။ အဲဒီကျောင်းတော်ကိုတော့ သိပ်ဂရုစိုက်တယ်။ အမြတ်တနိုးထားတယ်”

-လို့ ပြောကြတာ ကြားရတဲ့အခါ ကျေနပ်သွားပါတယ်။ လှူထားတဲ့ကျောင်းတော်ကြီးကို ဖျက်ဆီးပြီး စိတ်ဒုက္ခရောက်အောင် နှိပ်စက်မယ်လို့ ကြံစည်ပါတော့တယ်။

## ကျောင်းကို မီးနဲ့ရှို့

ကျောင်းက သံဃာတော်အရှင်မြတ်တွေ မြို့ရွာထဲ ဆွမ်းခံဝင်ချိန်မှာ သူဌေးကြီး လှူထားတဲ့ ကျောင်းကို မီးနဲ့ရှို့လိုက်ပါတယ်။ သတင်းကြားသူတွေက ကမန်းကတမ်းပြေးလာပြီး သူဌေးကြီးကို ပြောကြတယ်။ ကျောင်းကြီး မီးတွေလောင်နေပြီလို့ ပြောကြတယ်။

သူဌေးကြီးဟာကြားတာနဲ့ အိမ်ကနေ ကျောင်းရောက်အောင် ပြေးသွားတယ်။ မီးတွေ တဟုန်းဟုန်း တောက်လောင်နေတဲ့ ကျောင်းကြီးကို မြင်တဲ့အခါ အားရပါးရ လက်ခမောင်းခတ်နေတယ်။ အနားက လူတွေထင်တာက သူလှူထားတဲ့ကျောင်း မီးလောင်တာမြင်ရင် စိတ်မကောင်းဖြစ်မယ်။ စိတ်မချမ်းမသာ ဖြစ်သွားမယ် ထင်နေတာ။ အထင်နဲ့ အမြင်က တခြားစီ။

ဝမ်းသာအားရ လက်ခမောင်းခတ်နေတာ မြင်တော့ အားလုံး အံ့သြသွားကြတယ်။ သူခိုးကလည်း အနားရှိနေတော့ အံ့သြနေတယ်။ မထင်ကြဘူး

နော်။ ဘယ်သူမှ မထင်ကြဘူး။ မီးလောင်တာ မြင်ရင် သေချာပေါက် ဝမ်းနည်းပူဆွေးသွားမယ် ထင်တာ။ ဝမ်းသာနေပုံရတော့ စိတ်ဖောက်ပြန်သွားပြီလားပေါ့။

"သတိထားပါ၊ စိတ်ထိန်းပါ"လို့ မိတ်ဆွေတွေက သတိပေးကြတဲ့အချိန်မှာ သူဌေးကြီးက ရှင်းပြတယ်။ အေးအေးဆေးဆေး ရှင်းပြတယ်။

> "ကျွန်တော့်ကို ရူးသွားတယ် မထင်ပါနဲ့။ မရူးပါဘူး။ စိတ်သောကလည်း မဖြစ်ပါဘူး။ ဒီကျောင်းတော်ကြီး မီးလောင်သွားတော့ လှူရခဲ့တဲ့ သာသနာတော်မှာ ထပ်လှူရအုံးမယ်။ ဒီကျောင်းတော်ကြီးအစား နောက်တစ်ခါထပ်ပြီး ကျောင်း ဆောက် လှူ ခွင့် ရအုံးမယ်။ ကုသိုလ်တွေ ဖြစ်အုံးမယ်ဆိုတာကို တွေးမိပြီး ဝမ်းသာနေတာပါ။ ပျော်လွန်းလို့လက်ခမောင်းခတ်တာပါ"

-လို့ ရှင်းပြလိုက်တယ်။

သူခိုး အကြံပျက်ပြီပေါ့။ သူက စိတ်ဆင်းရဲစေချင်တာ။ ဘယ်လိုမှ လုပ်လို့ မရဘူး။ သူဌေးကြီးမှာ

ဘာမှမဖြစ်ဘဲ သူ့မှာသာ အကြံမအောင်လို့ စိတ်ဆင်းရဲတယ်။ သူ့ဒေါသက သူ့ကို နှိပ်စက်နေတယ်။ ချမ်းချမ်းသာသာ မနေနိုင်ဘူး။

## ထပ်မံဆောက်လုပ်လှူ

သူဌေးကြီးကတော့ အေးအေးဆေးဆေးပါပဲ။ ဘုန်းကြီးတို့ပရိသတ် နှလုံးသွင်းကောင်းတယ်။ စိတ်ထားတတ်တော့ နေတတ်တယ်။ အပျက်ကို မတွေးဘဲ ကုသိုလ်ရေးပဲ တွေးနေတော့ အေးနေတာပေါ့။

အားပါးတရ ရှိသမျှ ဥစ္စာတွေနဲ့ ကျောင်းတစ်ဆောင် ထပ်ဆောက်ပြန်တယ်။ စိတ်တိုင်းကျဆောက်လုပ်ပြီးတဲ့အခါ မြတ်စွာဘုရား အမှူးရှိတဲ့ သံဃာတော်အရှင်မြတ်တွေ ပင့်ပြီး ရေစက်ချပွဲကြီးအကြီးအကျယ် ကျင်းပပြန်တယ်။

ရေစက်ချပွဲမှာ မြတ်စွာဘုရားနဲ့ သံဃာတော်တွေကို ဆွမ်းကပ်၊ ရေစက်ချတရား နာကြားတဲ့အချိန်ကို ရောက်လာပြီ။ သူခိုးကလည်း အလစ်ချောင်းနေတာပဲ။ ပစ္စည်းဥစ္စာတွေ ဖျက်ဆီးလို့မှ မရရင် အသေ သတ်မယ်။ ဘယ်မှာ လစ်မလဲ အခွင့်

ကောင်းစောင့်နေတာ မရဘူး။ အခွင့်မသာဘူး။ အဲဒီတော့ ရေစက်ချပွဲမှာ ခါးကြားဓားထိုးလို့ ပရိသတ်နဲ့ ဝင်ရောနေတာ။ ရေစက်ချပွဲပျက်အောင် လုပ်ကြံဖို့ စောင့်နေတာနော်။

ရေစက်ချ တရားနာပြီးလို့ ရေစက်ချ အမျှဝေကာနီးမှာ သူဌေးကြီးက-

"မြတ်စွာဘုရား- တပည့်တော် လျှောက်ထားလိုပါတယ် မြတ်စွာဘုရား။ တပည့်တော်ရဲ့ လယ်တွေ အိမ်တွေ ခုနစ်ကြိမ် ခုနစ်ခါတိုင်တိုင် မီးလောင်တာ ခံရပါတယ်။ နွားခြံထဲက နွားတွေ ဓားနဲ့အခုတ်ခံရတာလည်း ခုနစ်ကြိမ်တိုင်အောင်ပါဘုရား။ အခုကျောင်းတော်ကြီး မီး လောင် တာ ကို ပါထောက်ဆရင် တပည့်တော်မှာ ရန်သူတစ်ယောက် ရှိနေပါပြီ။ အဲဒီလူကိုလည်း ကုသိုလ်ကောင်းမှု အစုစုကို အမျှဝေပါတယ် ဘုရား။ သူ့ကြောင့် ဒုတိယအကြိမ် ကျောင်းဆောက်လှူရတာမို့ ဒီအလှူမှာ သူ့ကိုပါ အမျှဝေပါတယ်ဘုရား။"

-လို့ ရိုသေစွာ လျှောက်ထားပါတယ်။ ပရိသတ်တွေ အားလုံးကြားသလို သူခိုးလည်း ကြားလိုက်ပါတယ်။

## တောင်းပန်ပါသော်လည်း

ခါးကြားမှာ ဓားထိုးပြီး အလစ်ချောင်းနေတဲ့ သူခိုးဟာ သဘောထားကြီးတဲ့ သူဌေးကြီးရဲ့ စကားကို ကြားတော့ နောင်တရလိုက်တယ်။ “သူတော်ကောင်းကြီးကို ငါ ပစ်မှားမိပြီ”လို့ မြတ်စွာဘုရားရှေ့မှာ လက်နက်ချပြီး ဝန်ချတောင်းပန်ပါတယ်။ သူဌေးကြီးကလည်း အကျိုးအကြောင်း မေးမှ သူ့စကားကြောင့် ဖြစ်ရတာလို့ သိရပြီး ပြန်တောင်းပန်တယ်။ ဒါပေမယ့် သူခိုးရဲ့ အကုသိုလ်ကံတွေက သိပ်ကြီးတော့ သေပြီးတဲ့အခါ ငရဲကျ၊ ငရဲက လွတ်တော့ တစ်ကိုယ်လုံး မီးလောင်ခံရတဲ့ မြွေပြိတ္တာကြီးဖြစ်ပြီး အကုသိုလ်ကြွေးဆပ်နေရရှာတာလို့ မြတ်စွာဘုရားက ဟောကြားတော်မူပါတယ်။

(ဓမ္မပဒ ဌ)

ဘုန်းကြီးတို့ပရိသတ် ဒေါသရဲ့အပြစ်တွေ မြင်ပြီမဟုတ်လား။ ဒေါသကြောင့်ဖြစ်လာတဲ့အကုသိုလ်

တွေကို ပြန်ဆပ်နေရ၊ အပါယ်ငရဲရောက်နေရတော့ ဘယ်မှာတရားရတော့မှာလဲ။ နှစ်ပေါင်းများစွာ ဘဝပေါင်းများစွာ ဒုက္ခခံရအုံးမှာဆိုတော့ မဂ်ဖိုလ်နိဗ္ဗာန်တရားတွေနဲ့ အဝေးကြီး ဝေးပြီပေါ့။ ဝင်ရောက်လာတဲ့ ဒေါသကို ကျေပျောက်သွားအောင် မပယ်ဖျောက်နိုင်ရင်တော့ တရား ရနိုင်ဖို့ မလွယ် တော့ဘူး။

## ဒေါသဖြစ်ကြောင်းများ

ဘုန်းကြီးတို့ပရိသတ်- ဒေါသကို ဖြစ်စေတဲ့ အကြောင်းတရားတွေကို သိထားရင် သတိထားဆင်ခြင်နိုင်ပါမယ်။ မဖြစ်သေးတဲ့ဒေါသတွေ မဖြစ်အောင်၊ ဖြစ်နေတဲ့ဒေါသတွေ ငြိမ်ဝပ်သွားအောင် ထိန်းနိုင်ဖို့အတွက် ဒေါသဖြစ်ကြောင်း ဆယ်ပါးကို ဘုန်းကြီး ဟောပြထားပါမယ်။

၁။ တစ်ချိန်တစ်ခါက မိမိရဲ့အကျိုးစီးပွား ပျက်ပြားအောင် ပြုခဲ့ဖူးတယ်။

၂။ ယခုလက်ရှိမှာ မိမိရဲ့အကျိုးစီးပွား ပျက်ပြားအောင် ပြုနေတယ်။

၃။ နောင်လာမယ့်တစ်ချိန်ချိန်မှာ မိမိရဲ့ အကျိုးစီးပွား ပျက်ပြားအောင် ပြုလိမ့်မယ်။

ဒီအကြောင်းသုံးချက်က ကိုယ့်ရဲ့ အကျိုးစီးပွား ထိခိုက်ပျက်ပြားအောင် ပြုလုပ်သူ၊ ပြုနေသူ၊ ပြုမယ့်သူတွေလို့ တွက်ဆမှန်းတီးပြီး ဒေါသဝင်တာပါ။

၄။ တစ်ချိန်တစ်ခါက မိမိချစ်ခင်သူရဲ့ အကျိုးစီးပွား ပျက်ပြားအောင် ပြုလုပ်ခဲ့ဖူးလို့၊

၅။ လက်ရှိအချိန်မှာ မိမိချစ်ခင်သူရဲ့အကျိုးစီးပွား ပျက်ပြားအောင် ပြုလုပ်ခဲ့နေလို့၊

၆။ နောင်တစ်ချိန်မှာ မိမိချစ်ခင်သူရဲ့ အကျိုးစီးပွား ပျက်ပြားအောင် ပြုလုပ်မှာမို့

ဒီအကြောင်းတွေက မိမိချစ်ခင်သူနဲ့ဆက်နွယ်ပြီး ဒေါသဖြစ်တာပါ။ ချစ်ခင်သူတွေဘက်က မခံနိုင်လို့ ဒေါသဖြစ်တာမျိုးပါ။

၇။ တစ်ချိန်တစ်ခါက မိမိမုန်းတီးသူရဲ့ အကျိုးကို ဆောင်ရွက်ပေးခဲ့တယ်။

၈။ လက်ရှိအချိန်မှာ မိမိမုန်းတီးသူရဲ့ အကျိုးကို ဆောင်ရွက်ပေးနေတယ်။

၉။ နောင်တစ်ချိန်ချိန်မှာ မိမိမုန်းတီးသူရဲ့အကျိုးကို ဆောင်ရွက်ပေးလိမ့်မယ်။

ဒီသုံးမျိုးက မုန်းတီးသူဘက်က ရပ်တည်တဲ့အတွက် ရန်သူရဲ့မိတ်ဆွေဖြစ်နေလို့ တစ်နွယ်ငင်တစ်စင်ပါပြီး ဒေါသဖြစ်တာပါ။

၁၀။ အဋ္ဌာနကောပ- အရာမဟုတ်ဘဲ ဒေါသထွက်ခြင်းတို့ ဖြစ်ပါတယ်။

တစ်ခါတစ်ခါမှာ ဒေါသမဖြစ်သင့်ဘဲ ဒေါသဖြစ်ကြတာမျိုးကို အဋ္ဌာနကောပ-လို့ မှတ်ပါ။ နေပူလို့ စိတ်တိုတယ်။ မိုးရွာတဲ့အတွက် မကျေမနပ်ဖြစ်တယ်။ ခလုတ်တိုက်လို့ ဒေါသထွက်တာမျိုးပေါ့။

ဘုန်းကြီးတို့ပရိသတ် ဒေါသဖြစ်ကြတာဟာ ဒီအကြောင်း ဆယ်ပါးကြောင့်ပါပဲ။

## ဆူပွက်လှုပ်ရှားနေလို့

မြတ်စွာဘုရားက-

**"သင်္ဂါရဝပုဏ္ဏား- ဒီဗျာပါဒဒေါသတွေ ဝင်လာရင် စာတွေမေ့ကုန်တယ်။ ကျက်လို့လည်း မရဘူး။ ဥပမာ ပြောရမယ်ဆိုရင် သန့်ရှင်း ကြည်လင်နေတဲ့ရေခွက်ကို အောက်က မီးပူ ပေးလိုက်ရင် ရေတွေဆူပွက်ပြီး အခိုးတလူလူ ထွက်လာတယ်။**

**အခိုးမထွက်ခင် ရေမဆူခင်တုန်းက မျက်နှာ ရိပ်ထင်ပေမယ့် ဆူပွက်လှုပ်ရှားနေရင် အခိုး ထွက်နေရင်တော့ အရိပ်မထင်တော့သလိုပဲ ပေါ့။ ဉာဏ်မှာ စာတွေ မထင်ရှားဘဲ ပျောက် ကုန်ပါတယ်။ မကျက်မမှတ်ဘဲ ပစ်ထားရင် တော့ ပိုဆိုးပါတယ်။"**

-လို့ မိန့်ကြားတော်မူလိုက်ပါတယ်။

*** ဆူပွက်နေပြား ရေခွက်အလား ထင်ရှားမမြင်ပြီ။**

ဘုန်းကြီးတို့ပရိသတ်- ရေအိုးထဲက ဆူပွက်နေတဲ့ရေတွေ၊ ထမင်းအိုးထဲ ဆူပွက်နေတဲ့ရေတွေကို တွေ့ဖူးကြမှာပေါ့။အောက်ထက်ပြောင်းပြန်လန်ပြီး ကျွမ်းထိုးမှောက်ခုံဖြစ်နေတယ်။ မငြိမ်သက်ဘဲ လှုပ်ရှားနေတယ်။ ငုံ့ကြည့်လိုက် မျက်နှာရိပ် မထင်ဘူး။

ဒေါသအဖျက်သမား ဝင်လာရင်လည်း စိတ်တွေ ဆူပွက်ကုန်တယ်။ လှုပ်ရှားကုန်တယ်။ စိတ်ရော ကိုယ်ပါ မတည်ငြိမ်တော့ဘူး။ တရား အရိပ်အယောင်တောင် မမြင်ရတော့ဘူး။

မအေးချမ်းတဲ့စိတ်၊ မတည်ငြိမ်တဲ့စိတ်နဲ့ စာကျက်မယ်ဆိုလည်း စာမရပါဘူး။ တရားအားထုတ်မယ်ဆိုလည်း တရားမရပါဘူး။ ဒေါသတရားက ဘုန်းကြီးတို့ပရိသတ် အားထုတ်နေတဲ့တရားတွေကို လည်း ဖျက်ဆီးလိုက်တယ်။ မရသေးတဲ့တရားတွေ မရအောင်လည်း တားဆီးလိုက်ပါတယ်။

ဒေါသကင်းနေမှ စိတ်ကြည်လင်မှ သမာဓိရပါတယ်။ ရှုမှတ်လို့ ရပါတယ်။ ဒေါသမဝင်အောင်နေလို့ မရဘဲ ဝင်လာပြီဆိုရင်တော့ အမြန်ဆုံး ပယ်

ဖျောက်ပါ။ ဒေါသရန်ကို တွန်းလှန်ပါ။ ဒေါသသူပုန် ကို လက်ခံမထားဘဲ တိုက်ထုတ်ပါ။ တွန်းလှန်ပါ။

## ဗျာပါဒ ပယ်ချင်ရင်

ဗျာပါဒဒေါသဟာ မကောင်းကျိုးကို ပေးတတ်တဲ့ အကုသိုလ်တရား၊ ကောင်းကျိုးချမ်းသာကို ပျက်ပြားစေတဲ့တရားပါ။ ဒေါသကြောင့် စီးပွားတွေ ပျက်စီးပါတယ်။ ဒေါသကြောင့် တရားတွေ ပျက်စီးရပါတယ်။ အဲဒီ ဒေါသဗျာပါကို ပယ်ချင်တယ်ဆိုရင် -

၁။ မေတ္တာကမ္မဋ္ဌာန်းကို သင်ယူရပါမယ်။

၂။ မေတ္တာဘာဝနာ ပွားများရပါမယ်။

၃။ ကံတရားကို သတိပြုဆင်ခြင်ရပါမယ်။

၄။ ဒေါသရဲ့အပြစ်နဲ့ မေတ္တာရဲ့အကျိုးကို ဆင်ခြင်ရပါမယ်။

၅။ မေတ္တာနဲ့နေတတ်တဲ့ မိတ်ဆွေကောင်းကို ပေါင်းရပါမယ်။

၆။ မေတ္တာဘာဝနာနဲ့ လျော်တဲ့ စကားကို ပြောကြားရပါမယ်။

ဘုန်းကြီးတို့ပရိသတ်- တောင်လောင်လာတဲ့ ဒေါသမီးကို မေတ္တာရေစင်နဲ့ ငြိမ်းသတ်ပါ။ မေတ္တာ တရားနဲ့နေရင် ဒေါသတွေ ပြေသွားပါတယ်။

“သတ္တဝါအားလုံး ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ ကြပါစေ”လို့သာ နှလုံးသွင်းနိုင်ရင် ဘယ်သူ့ကိုမှ မကျေနပ်တာ၊ မကြည်ဖြူတာ မရှိတော့ပါဘူး။ ကြည့်လို့မရ ကြားလို့မရ မြင်လို့မရတာ မဖြစ်တော့ ပါဘူး။

ဒေါသဖြစ်ရင် ဖြစ်သူမှာ ဆင်းရဲတယ်။ ဒုက္ခ ရောက်တယ်။ ငါ ဒေါသ မဖြစ်အောင် နေမယ်။ မေတ္တာထားရင် အေးချမ်းတယ်။ ငါ မေတ္တာနဲ့နေ မယ်လို့ စိတ်ပိုင်းဖြတ်ထားလိုက်ရင် ဒေါသဗျာပါဒ တွေ လွင့်စင်သွားပါမယ်။

## ဒေါသမဖြစ်အောင် သည်းခံ

ဘုန်းကြီးတို့ပရိသတ်- လူ့သဘာဝကိုက ကိုယ် ကို ရန်စစော်ကားရင် စိတ်ဆိုးပါတယ်။ တစ်ခွန်း ဆဲရင် တစ်ခွန်းပြန်ပြီး ဆဲချင်တယ်။ သူက ကိုယ့်ကို တစ်ချက်ရိုက်ရင် ကိုယ်ကလည်း တစ်ချက် ပြန်ရိုက်

ချင်တယ်။ လက်တုံ့ပြန်ချင်တဲ့ဒေါသကို နိုင်ချင်ရင် သည်းခံတဲ့အကျင့်ကို ကျင့်သုံးပါ။

အစမှာတော့ ခက်မှာပေါ့။ တဖြည်းဖြည်း သည်းခံတဲ့အကျင့်ကို လေ့ကျင့်သွားရင် ဘယ်လို အကြောင်းနဲ့မှ ဒေါသမဖြစ်တော့ဘူးပေါ့။ စိတ်တိုင်း ကျလို့လည်း လောဘမဖြစ်အောင်၊ စိတ်တိုင်းမကျ လို့လည်း ဒေါသမဖြစ်အောင် သည်းခံနိုင်ရင် ကာ-မစ္ဆန္ဒနဲ့ ဗျာပါဒ တရားမရကြောင်း နှစ်ပါးကို ပယ် ထားလိုက်တာပါ။

"ရဟန်းတော်များ အိုချစ်သားတို့- နှစ်ဌာန တို့၌ အရိုးရှိသော လှံကြီးဖြင့် ယုတ်မာသော အကျင့်ရှိကုန်သောခိုးသူတို့သည်အင်္ဂါကြီးငယ် တို့ကို အကယ်၍ တိုက်ဖြတ်ကြကုန်အံ့။

ထိုအင်္ဂါကြီးငယ်တို့ကို လှံကြီးဖြင့် တိုက် ဖြတ်ကြကုန်သော ခိုးသူရန်သူတို့၌သော်လည်း အကြင်သူသည် နှလုံးပြစ်မှားရာ၏။ ဒေါသ ဖြစ်ရာ၏။ ထိုသူသည် ထိုနှလုံးပြစ်မှားခြင်း၊ ဒေါသဖြစ်ခြင်းဖြင့် ငါဘုရား၏ အဆုံးအမ ဩဝါတရားတော်ကို လိုက်နာသည်မမည်"

-လို့ ကကစူပမသုတ္တန်မှာ မြတ်စွာဘုရား ဟော ထားတာ ရှိပါတယ်။

ဘုန်းကြီးတို့ပရိသတ်-ငါးမန်းစွယ်လွှကြီးနဲ့ ကိုယ့်ရဲ့ အင်္ဂါအစိတ်အပိုင်းတွေ အပိုင်းပိုင်းပြတ်အောင် ဖြတ်တာကိုတောင် စိတ်ဆိုးရင်၊ ဒေါသဖြစ်ရင် ဘုရားအဆုံးအမ လိုက်နာတဲ့သူမဟုတ်ဘူးဆိုတော့ သည်းခံရပါမယ်။

ဘုရားစကားကို လိုက်နာသောအားဖြင့်လည်း ဒေါသ မဖြစ်အောင် သည်းခံရမယ်၊ ကိုယ့်အကျိုး တရား ပျက်မသွားအောင်လည်း သည်းခံရမယ်။ တရား မပျက်အောင်လည်း သည်းခံရမယ်ပေါ့။

## စာ မမေ့တဲ့အကြောင်း

ဗျာပါဒဝင်လို့ စာမေ့ရကြောင်း ဟောတော်မူပြီးတဲ့အခါ မြတ်စွာဘုရားရှင်က သင်္ဂါရဝပုဏ္ဏားကို ဗျာပါဒဒေါသတွေ ကင်းနေချိန်မှာ စာမမေ့တဲ့ အကြောင်း စာကျက်ရ လွယ်ကူတဲ့အကြောင်း ဟောပြန်ပါတယ်။

**"သင်္ဂါရဝပုဏ္ဏား-မဆူမပွက်အငွေ့မထွက်တဲ့ ရေစင်ရေကောင်းမှာ ကြည့်ရှုဆင်ခြင်သူဟာ မိမိရဲ့မျက်နှာရိပ်ကို ကောင်းကောင်းမြင်ရ၊ ထင်ထင်ရှားရှား တွေ့ရသလိုပါပဲ။**

**ဒေါသဗျာပါဒတွေ ကင်းစင်နေတဲ့အခါ ရှင်းလင်းနေတဲ့ အခါမှာ ရပြီးသားတွေကိုလည်း မမေ့ပါဘူး။ ကျက်မှတ်မယ်ဆိုရင်လည်း အလွယ်နဲ့ရပါတယ်။**

ဒေါသကင်းတာဟာ စာမမေ့တဲ့အကြောင်းပါ။ တရားမမေ့တဲ့အကြောင်းပါ။ ဒေါသမဝင်ရင် တရားတွေ တိုးတက်ပါတယ်။

ဘုန်းကြီးတို့ပရိသတ်- တကယ်လို့ တရားအားထုတ်နေတုန်း အကြောင်းတစ်ခုခုကြောင့် ဒေါသဖြစ်မယ် ကြံရင် သတိဝင်လိုက်ပါ။ ဒေါသဗျာပါဒစိတ်ကို နာမ်, နာမ်လို့ ရှုမှတ်ပါ။

တစ်ယောက်ယောက်ကြောင့် စိတ်ဆိုးလာရင် မကျေမနပ် ဖြစ်လာရင် မေတ္တာပို့ပါ။ မေတ္တာပွားလိုက်ပါ။ အနှောင့်အယှက် ပေးလာတယ်ဆိုရင် သည်းခံလိုက်ပါ။

# ရုပ်–နာမ် ရှုမှတ်ကာကွယ်

ဒါမှမရရင်- ရုပ်နာမ်တရားတွေကို တွင်တွင်ရှုမှတ်ပြီး ဒေါသကို နှင်ထုတ်ပါ။ ရှုမှတ်စိတ်နဲ့ကာကွယ်ထားရင် လုံခြုံသွားပါတယ်။ ပုဂ္ဂိုလ်သတ္တဝါ တစ်ဦးတစ်ယောက်ကြောင့်ဆိုရင် အဲဒီသူကို အာရုံပြုပြီး ရုပ် ရုပ်လို့ ရှု၊ စိတ်ထဲမှာ တရေးရေးနဲ့ တွေးမြင်နေတယ်ဆိုရင် နာမ် နာမ်လို့ ရှုလိုက်ပါ။ ကြောက်လန့်စိတ် စိုးရိမ်စိတ်တွေပေါ်ရင် နာမ် နာမ်လို့ ရှုပါ။

မကျေနပ်တဲ့စိတ်၊ ကြိတ်မနိုင် ခဲမရဖြစ်နေတဲ့ စိတ်တွေဟာ နာမ်တရား၊ မကျေနိုင်မချမ်းနိုင် မုန်းတီးတဲ့စိတ် သတ်ဖြတ် ထိုးကြိတ်ချင်တဲ့စိတ်တွေဟာ နာမ်တရားပါ။

ဒေါသဖြစ်လို့ ရင်မှာ ပူနေတယ်။ အသားတွေ တဆတ်ဆတ် တုန်တယ်ဆိုရင် ပူသဘော တုန်သဘောတွေကို ရုပ်လို့ရှု၊ ပူမှန်းတုန်မှန်း သိတဲ့စိတ်ကို နာမ်လို့ ရှုပါ။

ရှုမှတ်လိုက်လို့ ဖြစ်စေ၊ မေတ္တာပွားလိုက်၊ သည်းခံလိုက်လို့ဖြစ်စေ၊ ဒေါသ ပြေပျောက်သွားတယ်ဆိုရင် တရားတွေတိုးတက်လာပါမယ်။ အရှုခံရုပ်နာမ်မှာ အသိဉာဏ်နဲ့ ပြန်ပြီးတော့ ရှုမှတ်နိုင်ပါမယ်။ ဒေါသဖြစ်ရင် တရားမရတာမို့ တရားမရနိုင်တဲ့ အကြောင်းတစ်ပါးဟာ ဒေါသဗျာပါဒတရားလို့ ဘုန်းကြီးတို့ပရိသတ် မှတ်ထားပါ။

## ဗျာပါဒကင်းစင် နိဗ္ဗာန်ဝင်

သာဝတ္ထိပြည်မှာ ဗုဒ္ဓမြတ်စွာ သီတင်းသုံး နေစဉ်ကပေါ့။ သနားစရာအမျိုးသမီးလေးတစ်ယောက် ရှိပါတယ်။ ရုပ်ရည်ကလေးက လှပ၊ လိမ္မာရေးခြား ကလည်းရှိတဲ့ သမီးလိမ္မာလေးပါ။ အရွယ်ရောက် တော့ မိဘတွေက အိမ်ထောင်ချပေးကြတယ်။ မျိုးတူရွယ်တူ ဂုဏ်ရည်တူချင်းပေါ့။

မိဘတွေနဲ့ နေစဉ်က စိတ်ချမ်းသာရပေမယ့် အိမ်ထောင်ကျမှ သူ့ခမျာ ငရဲခံရသလိုပါပဲ။ လင်ယောကျ်ားဝတ္တရား ကျေပွန်တယ်။ အိမ်ထောင်

တာဝန် ကျေတယ်။ ဒါပေမယ့် မျက်နှာကောင်း တစ်ချက်မှ မရရှာဘူး။ မျက်နှာသာပေး မခံရဘူး။

သေသေချာချာ ဂရုတစိုက်ပြုစုပေမယ့် မျက်နှာကောင်းမရဘူး။ အမြဲလိုလို အော်ငေါက်တာ မြည်တွန်တောက်တီးတာ ခံရတယ်။ အဆဲအဆိုခံရတယ်။ တစ်ခါတလေ အရိုက်အနှက်တောင် ခံရသေးတယ်။ နေ့စဉ်နေ့တိုင်း မျက်ရည်နဲ့မျက်ခွက် မပြတ်ရှာဘူး။

စိတ်မချမ်းသာပေမယ့် မိဘတွေ မျက်နှာ၊ ကိုယ့်ရဲ့ဂုဏ်သိက္ခာကို ထောက်ပြီး ပေါင်းသင်းနေရရှာပါတယ်။ ဒီကြားထဲမှာ လင်ယောကျ်ားက သူ့ကိုပစ်ပြီး တခြားအမျိုးသမီးတစ်ယောက်ကို ချစ်မြတ်နိုးနေတာသိတော့ ရင်ကွဲပြီပေါ့။ ကြေကွဲဝမ်းနည်း စိတ်ဆိုးဒေါသတွေ ဖြစ်ပြီပေါ့။ နေ့စဉ်နဲ့အမျှ စိတ်မချမ်းမသာဖြစ်ရတဲ့ ဗျာပါဒဒေါသတွေ၊ ယခု ကြင်သူ အသစ်ရှာတာကို သိရလို့ အထွတ်အထိပ်ကို ရောက်လာတဲ့ ဗျာပါဒဒေါသတွေပေါင်းပြီး နှိပ်စက်တာ ခံရရှာတယ်။

## တရားအားကိုး တရားတိုး

စိတ်မချမ်းသာမှုတွေ ပျောက်အောင် အရှင်သာရိပုတြာနဲ့ အရှင်မောဂ္ဂလာန်တို့ကို အိမ်မှာပင့်ဆွမ်းကပ်ပြီး ဗျာပါဒပျောက်အောင် ဟောကြားပေးဖို့ လျှောက်ထားပါတယ်။ အရှင်မြတ်များထံတရားနာယူရတဲ့အခါ သောတာပန်ဖြစ်သွားပါတယ်။အားကိုးရပြီပေါ့။ အားကိုးရာမဲ့နေတဲ့ဘဝက လွန်မြောက်ပြီး တရားရှိပြီဆိုတော့ အချိန်ရှိတိုင်း မဂ်ချမ်းသာဖိုလ်ချမ်းသာတွေ ခံစားနေတဲ့အတွက် ဒေါသဗျာပါဒတွေ မနှိပ်စက်နိုင်တော့ဘူး။

"ငါ့လင်ယောကျ်ားက ငါ့ကို အလိုမရှိတော့ရင် အိမ်မှာနေလို့ ဘာအကျိုးရှိမှာလဲ၊ သာသနာ့ဘောင်မှာ ရဟန်းမ ပြုတော့မယ်။"

-လို့ စဉ်းစားပြီး မိဘများကို ခွင့်ပန်ကာ သာသနာ့ဘောင်သို့ ဝင် ရောက် လာ ပါ တယ်။ ကြိုးစားပြီးဆက်လက်အားထုတ်တဲ့အခါ မကြာမီမှာပဲ ရဟန္တာထေရီ ဖြစ်သွားပါတယ်။

(ဇာတက ၄၅)

ဗျာပါဒဒေါသတွေ ကင်းလို့ တရားရသွားတဲ့ ဖြစ်ရပ်ပါ။ စိတ်မချမ်းသာမှုကို တရားနဲ့ပယ်ဖျောက်နိုင်လို့ ရဟန္တာဖြစ်တဲ့အထိ တရားရသွားတာပါ။

ဘုန်းကြီးတို့ပရိသတ်- စိတ်ဆိုးတာ စိတ်ပျက်တာ၊ ဒေါသဖြစ်တာ၊ စိတ်မချမ်းမသာ ဖြစ်ရတာတွေဟာ စာ မေ့တဲ့အကြောင်း၊ တရား မရတဲ့ အကြောင်းတစ်ပါးလို့ နားလည်ပါ။ ဗျာပါဒဒေါသတွေ ဝင်လာတာနဲ့ သတိကပ်ရှုမှတ်ပါ။ ပေါ်လာတာနဲ့ ကြီးထွားခွင့်မပေးဘဲ ရှုမှတ်ပြီး ဖျောက်ဖျက်မယ်ဆိုရင် အလွယ်နဲ့ တရားတွေ တိုးတက်လာပါမယ်။ သိမြင်တွေ့ရှိလာပါမယ်။

## ဝိတက်သုံးမျိုး

နီဝရဏ ငါးပါးရှိတဲ့ထဲက ကာမစ္ဆန္ဒနီဝရဏနဲ့ ဗျာပါဒနီဝရဏဆိုတဲ့ တရားမရခြင်း အကြောင်း နှစ်ပါး ဘုန်းကြီးတို့ပရိသတ် သိပါပြီ။ တရားအားထုတ်ကြတဲ့ ယောဂီများမှာ ဒီနီဝရဏတွေနဲ့ ပတ်သက်ပြီး ဝိတက်သုံးမျိုး ဖြစ်တတ်ပါတယ်။ တရားရဲ့ ရန်သူတွေပါပဲ။

၁။ ကာမဝိတက် - ကာမဂုဏ်စိတ်ကူး

၂။ ဗျာပါဒဝိတက် - ဒေါသစိတ်ကူး

၃။ ဝိဟိံသဝိတက်- ဒုက္ခပေးချင်တဲ့ စိတ်ကူး တွေပါ။

ကာမဝိတက်ဆိုတာက သတ္တဝါနဲ့ အရာဝတ္ထု တစ်ခုခုပေါ်မှာ ရလိုမှု၊ နှစ်သက်မှုနှင့် စပ်ဆိုင်တဲ့ အကြံအစည် စိတ်ကူးပါ။ ကာမစ္ဆန္ဒနဲ့သဘောချင်း ဆင်တူပါတယ်။

ဗျာပါဒဝိတက်ဆိုတာက- မိမိနှင့် ပတ်သက် ပြီးတော့ဖြစ်စေ၊ သူတစ်ပါးနဲ့ပတ်သက်ပြီးတော့ ဖြစ်စေ၊ ရာသီဥတုစတဲ့ တစ်စုံတစ်ရာကြောင့်ဖြစ်စေ စိတ်ဆိုးစိတ်ပျက်တာ အလိုမကျတာ၊ ကြောက်ရွံ့ ထိတ်လန့်တာ၊ တစ်ဘက်သားကို နစ်နာစေလို ပျက် စီးစေလိုတာနဲ့ စပ်နွှယ်တဲ့ အကြံအစည်စိတ်ကူးပါ။ ဗျာပါဒနီဝရဏပါပဲ။

ဝိဟိံသဝိတက်ဆိုတာက သူတစ်ဘက်ကို နှိပ် စက်ချင် ဒုက္ခပေးချင်တဲ့ အကြံအစည်စိတ်ကူးပါ။ ဗျာပါဒနီဝရဏထဲ ပါဝင်ပါတယ်။

ဒီသုံးမျိုးသော စိတ်ကူးတွေကို ဖျောက်ဖျက်ပစ်မှ တရားရှေ့ကို တိုးတက်ပါမယ်။ အစပထမ အားထုတ်ကာစ ယောဂီတွေမှာ ဒီအတွေးတွေနဲ့ပဲ လုံးထွေးရစ်ပတ်နေကြတယ်။ တစ်မျိုးပျောက်သွား တစ်မျိုးဝင်လာနဲ့ နှောင့်ယှက်ကြပါတယ်။

## ပယ်သတ်နည်း – ၅–နည်း

ဘုန်းကြီးတို့ပရိသတ်- ဝင်လာကြတဲ့ အကြံအစည် စိတ်ကူးဝိတက်သုံးမျိုးကို ပယ်နိုင်ဖို့အတွက် မြတ်စွာဘုရားရှင်က မူလပဏ္ဏာသ၊ ဝိတက္ကသုတ္တန်မှာ နည်း(၅)မျိုး ပေးထားပါတယ်။ တစ်မျိုးနဲ့ မပျောက်ရင် တစ်မျိုးကို သုံးရမှာပါ။

### ၁။ **အစားထိုး ပယ်ဖျောက်နည်း (အညနိမိတ္တပဗ္ဗ)**

ယောကျ်ား, မိန်းမစတဲ့ ပုဂ္ဂိုလ်သတ္တဝါတွေနဲ့ ဆက်စပ်ပြီး လိုချင်မှု၊ နှစ်သက်မှု၊ လွမ်းဆွတ်တမ်းတ သတိရမှု စိတ်ကူးတွေ ဝင်လာတဲ့အခါမှာ အသုဘဘာဝနာကို နှလုံးသွင်းရပါတယ်။ လိုချင်မှု နှစ်သက်မှုပျောက်အောင် အသုဘမြင်အောင် ရှုပါ။

ပစ္စည်းဝတ္ထုတစ်ခုကို တောင့်တလိုချင်တဲ့ စိတ်ကူးမျိုး ဝင်လာတဲ့အခါမှာ မမြဲတဲ့အနိစ္စသဘောကို နှလုံးသွင်းပါ။ လိုချင်တာကိုရလည်း သူ့အချိန်ကျရင် ပျောက်ပျက်သွားမှာပဲလို့ ဆင်ခြင်နိုင်ရင် မလိုချင်တော့ဘူးပေါ့။ မစွဲလန်းတော့ဘူးပေါ့။

ပုဂ္ဂိုလ်သတ္တဝါတစ်ဦးဦးနဲ့ဆက်နွယ်ပြီး ဒေါသအတွေး၊ ဒေါသစိတ်ကူးတွေ ဝင်လာလျှင် မေတ္တာပွား မေတ္တာပို့ပါ။ မေတ္တာဓာတ်ဝင်လာရင် ဒေါသစိတ်ကူး ကင်းစင်ပါတယ်။

အရာဝတ္ထုတစ်ခုခုကြောင့် ဒေါသဖြစ်ရတယ်ဆိုရင်တော့ ဓာတ်သဘောတွေကို ဆင်ခြင်လိုက်ပါ။ ဓာတ်အစုတွေသာလို့ နှလုံးသွင်းရပါတယ်။

ဒါမှမဟုတ်ရင် ဘုန်းကြီးတို့ပရိသတ်- အခု ရှုမှတ်နေတဲ့ ဓမ္မာနုပဿနာသတိပဋ္ဌာန်နည်းအရ ရုပ်နာမ်သဘာဝတွေကို အသေအချာ တွေ့မြင်အောင် ရှုမှတ်လိုက်ရင်လည်း ဝိတက်ဆိုးသုံးမျိုးတို့ ကင်းပျောက်သွားပါမယ်။ အတွေးရပ်သွားပါမယ်။

## ၂။ **အပြစ်ရှု ပယ်ဖျောက်နည်း (အာဒိနဝပဗ္ဗ)**

ကာမဝိတက်တွေကို ဘုန်းကြီးတို့ပရိသတ်-ပယ်သတ်ချင်တယ်။ လောဘစိတ်ကူးတွေကို ရပ်တန့်စေချင်တယ်ဆိုရင် လောဘရဲ့အပြစ်ကို နှလုံးသွင်းလိုက်ပါ။ ကောင်းကျိုးမပေးပုံ ဆင်းရဲဒုက္ခပေးပုံတွေကို သတိပြုဆင်ခြင်ပါ။

ဗျာပါဒဒေါသအတွက်ဆိုရင် "ဒေါသရဲ့အပြစ်ကို ရှုမြင်လိုက်ပါ။ ဒေါသကြောင့်ဒုက္ခရောက်ပုံတွေကို အာရုံပြုပါ။ "ဒေါသဖြစ်တာဟာ သူတော်ကောင်းစရိုက် မဟုတ်ဘူး။ ဒေါသဖြစ်ရင် ပူလောင်တယ်၊ စိတ်ဆိုးတဲ့သူကို ပြန်စိတ်ဆိုးရင် အသိဉာဏ်နည်းတဲ့ လူမိုက်ပဲ"စသည်ဖြင့် ဒေါသရဲ့ အပြစ်တွေကို မပြတ်ဆင်ခြင်ပါ။

## ၃။**မေ့ပျောက်ရှောင်လွှဲပယ်သတ်နည်း(အသတိပဗ္ဗ)**

ဘုန်းကြီးတို့ပရိသတ်- စိတ်ကူးတွေ အတွေးတွေက သိပ်ဝင်နေတယ်။ ကိုယ် ရှုမှတ်နေတဲ့တရားတွေ ဘယ်လိုမှ မရှုမှတ်နိုင်အောင် ဖြစ်နေတယ်ဆိုရင် ဘုရားဂုဏ်တော်၊ တရားဂုဏ်တော်တွေ ရွတ်ဆို

လိုက်ပါ။ စိတ်တည်ငြိမ်သွားတဲ့အထိ ရသမျှ တရားစာတွေ ပရိတ်တွေ ရွတ်ဆိုနေလိုက်ပါ။ စိတ်ကူးအတွေး ပြတ်အောင် ထိုးဖောက်ပါ။

ဝိတက် စိတ်ကူးတွေကို မေ့ပျောက်သွားတဲ့အထိ ရွတ်ဆိုရပါမယ်။ အာရုံပြောင်းလိုက်တဲ့ သဘော၊ ရှောင်လွှဲထားတဲ့သဘောပေါ့။ တစ်, နှစ်, သုံး,လေး ရေတွက်နေတာမျိုးနဲ့လည်း ပျောက်တတ်ပါတယ်။

ဒါမှမဟုတ် အပြစ်မရှိတဲ့ အလုပ်တွေ လုပ်၊ ဝေယျာဝစ္စတွေဆောင်ရွက်၊ စာဖတ်စာရေးစာကျက်တာတွေ ခဏ ခေတ္တလောက် လုပ်နေရင်လည်း ဝိတက်တွေ ဝေးသွားပါတယ်။ ဝိတက်ပျောက်တာနဲ့ မူလအလုပ် ကမ္မဋ္ဌာန်းကို ပြန်ရှုရပါတယ်။ မပြီးနိုင် မပြတ်နိုင်တာတွေ လုပ်မိပြီး တရားအလုပ်ကို ပျက်မသွားစေဖို့ ဂရုစိုက်ပါ။

## ၄။ **အကြောင်းရင်းရှာ ပယ်ဖျောက်နည်း (ဝိတက္ကမူလဘေဒပဗ္ဗ)**

များသောအားဖြင့် တရားအားထုတ်ချိန်မှာ ဝင်လာတဲ့ စိတ်ကူးတွေဟာ အကောင်အထည် မည်

မည်ရရ မရှိတာ များပါတယ်။ ရောက်မိရောက်ရာ အဓိပ္ပာယ်မရှိ ဆက်စပ်ရောက်နေတာတွေပါ။ ဖြစ်လာတဲ့စိတ်ကူးတွေရဲ့ အကြောင်းရင်း မြစ်ဖျားခံရာကို အဆင့်ဆင့်ပြန်ရှာ ပြန်စစ်လိုက်ရင် ရှေ့မတိုးတော့ဘဲ ဝိတက်တွေ ပျောက်သွားပါတယ်။

မြေပြိုတယ် ထင်ပြီး တရုန်းရုန်း ပြေးကြတဲ့ တိရစ္ဆာန်တွေကို ခြင်္သေ့မင်းက ယုန်သူငယ်ခေါ်ကာ အကြောင်းရင်း ရှာလိုက်တော့ ထန်းလက်ပေါ် ဥသျှစ်သီး ကြွေကျတာလို့ အမှန် ပေါ်လာသလို အထင်မှား အတွေးတွေ ပျောက်အောင် နောက်ကြောင်းပြန် လိုက်တဲ့နည်းနဲ့ သုံးသင့်တဲ့အခါမှာလည်း ဘုန်းကြီးတို့ပရိသတ် သုံးရမှာပါ။

“အရင်းစစ်တော့အမြစ်မြေက”ဆိုသလိုဝိတက်တွေရဲ့ မြစ်ဖျားခံရာဟာ အဓိပ္ပာယ်မရှိတာ၊ အကျိုးမရှိတာကို တွေ့သွားရင် စိတ်ကူးတွေ လွင့်စင်သွားတယ်ပေါ့။

## ၅။ **ဖိနှိပ်အံကြိတ် ပယ်ဖျောက်နည်း (အဘိနဂ္ဂဏှနပဗ္ဗ)**

အရိုးကြေကြေ အရေခန်းခန်း စိတ်အားသန်သန်နဲ့ တင်းခံလိုက်တာမျိုးပါ။ အံကြိတ် တောက်ခေါက်ပြီး စိန်ခေါ်ပြီး ဝိတက်တွေကို တွန်းလှန်လိုက်ဖို့ လိုပါတယ်။ အလျှော့ပေး အလိုလိုက်ထားရင် ပိုဆိုးလာ ရောင့်တက်လာတာမို့ စိတ်အားတင်းပြီး တိုက်ထုတ်ရပါတယ်။ တွေးချင်ပေမယ့် မတွေးဘူး၊ စိတ်က သွားချင်ပေမယ့် မသွားရဘူးလို့ ဆန့်ကျင်တော်လှန်လိုက်ရင်လည်း အကြံအစည်ဝိတက်တွေ ပြေးထွက်သွားတယ်။ လန့်ဖျတ်ပြီး ထွက်ပြေးသွားပါလိမ့်မယ်။

## **ဘုရားလောင်းပယ်ဖျောက်**

ဘုန်းကြီးတို့ပရိသတ်- စိတ်တွေ မငြိမ်လို့ စိတ်မပျက်ပါနဲ့။ စိတ်တွေ ကယောက်ကယက်ဖြစ်နေလို့ ရှုမှတ်လို့ မရဘူး။ အတွေးမျိုးစုံဝင်နေလို့ တရားမှတ်လို့ မရဘူးလို့ စိတ်အားမငယ်ပါနဲ့။ လူတိုင်း ဖြစ်ကြတာပါ။ တခြားသူမပြောနဲ့ ဘုန်းကြီးတို့ရဲ့မြတ်စွာ

ဘုရားတောင် အလောင်းတော်ဘဝမှာ ဖြစ်ခဲ့ပါတယ်။ ကြိုးစားအားတင်းပြီး ပယ်ဖျောက်ရင် ဝိတက်တွေ ပျောက်ကို ပျောက်ပါတယ်။

ဘုရားလောင်းတော်မှာ အကြမ်းစား ကာမ-ဝိတက်တွေ မရှိပေမယ့် ကျောင်းသင်္ခမ်းရဲ့ သာယာပုံ၊ သားသမင် ကျေးငှက်တွေရဲ့ သာယာဖွယ် မည်တမ်းပုံတွေ မြင်ရကြားရချိန်မှာ သာယာနှစ်သက်တဲ့ အနုစားကာမဝိတက်တွေ ဝင်လာတယ်။

အပူဒဏ် အအေးဒဏ်တို့ကြောင့် ရံခါဖြစ်တတ်တဲ့ ဗျာပါဒဝိတက်၊ ကြီးနိုင်ငယ်ညှင်း သတ္တဝါတွေအတွက် စိတ်ပင်ပန်းရတဲ့ ဗျာပါဒဝိတက်တွေ ဖြစ်ပါတယ်။

ဘုန်းကြီးတို့ ပရိသတ်တွေမှာလည်း အနုစားဝိတက်တွေမသိမသာဝင်ပါတယ်။ အစားအသောက် အနေအထိုင် အကြောင်းပြုပြီး နှစ်သက်တာ မနှစ်သက်တာ၊ စိတ်တိုင်းကျတာ မကျတာတွေဟာလည်း ကာမဝိတက် ဗျာပါဒဝိတက်တွေပါပဲ။ အဲဒါတွေကိုလည်း တတ်နိုင်သမျှ သတိထားပြီး ပယ်ရှားပါမှ တရားရပါလိမ့်မယ်။

❖ ❖ ❖

# ထိနမိဒ္ဓနီဝရဏ

## ထိနမိဒ္ဓနီဝရဏ

ထိနမိဒ္ဓဆိုတာ လေးလံထိုင်းမှိုင်းတဲ့ သဘော၊ အိပ်ချင်ငိုက်မျဉ်းတဲ့ သဘောပါ။ စိတ်ရဲ့ အားတက်သရော မရှိဘဲ လေးလံထိုင်းမှိုင်းမှုသည် ထိန။ စိတ်နဲ့တွဲဘက် စေတသိက်တို့ရဲ့ တက်တက်ကြွကြွ မရှိရအောင် ဖိနှိပ်ဟန့်တားမှုသည် မိဒ္ဓလို့ ခွဲခြားနိုင်ပါတယ်။ ဒါပေမယ့် ထိနနဲ့ မိဒ္ဓဟာ အတူတကွ ပူးပေါင်းပြီးတော့ သတ္တဝါအများကို ပျင်းရိနေအောင် လေးလံထိုင်းမှိုင်းသွားအောင် ပြုတတ်တာမို့ ထိနမိဒ္ဓလို့ နီဝရဏတစ်ပါးထဲအနေအားဖြင့် မြတ်စွာဘုရား ဟောကြားတာပါ။

ဘုန်းကြီးတို့ပရိသတ်- တရားအားထုတ်ကြတဲ့ အခါမှာ စိတ်တွေ ငြိမ်လာမယ်ကြံရင် ထိနမိဒ္ဓ ဝင်တတ်ပါတယ်။ ငိုက်တတ်ကြတယ်နော်။ အိပ်ချင်မူး

တူးနဲ့ ဘယ်အာရုံကိုမှ မယူချင်ဘဲ အရှုအမှတ်တွေ လွတ်လွတ်သွားကြတယ်။ သွက်လက်မှုတွေ ကင်းကုန်တယ်။ နိုးကြားထက်မြက်မှုတွေ ကင်းကုန်ကြပါတယ်။

ထိနမိဒ္ဓဝင်လာပြီဆိုရင်အသိသာကြီးပါ။ ကိုယ်ခန္ဓာ ကြံ့ခိုင်မှုလည်း မရှိတော့ဘူး။ စိတ်ဓာတ်ခွန်အား၊ စိတ်အင်အားတွေလည်း မရှိတော့ဘူး။ ပျော့ခွေသွားတော့တယ်။ တွန့်ခွေသွားကြတယ်။ ထိကရုံးပင်များ လက်နဲ့ တို့လိုက်ရင် တွန့်ခွေအိပ်သွားသလို ထိနမိဒ္ဓ ဝင်ရင်လည်း ဘုန်းကြီးတို့ပရိသတ်တွေ တွန့်ခွေအိပ်ချင်သွားတော့တာပဲပေါ့။ အားလုံး ဆိုကြည့်ပါ။

*** ထိုင်းမှိုင်းဖျင်းအ အိပ်ချင်က ထိနမိဒ္ဓမည်။**

## မထိန်းနိုင်မသိမ်းနိုင်

အိပ်ချင်ငိုက်မျဉ်းတဲ့ ထိနမိဒ္ဓနီဝရဏ ဝင်ရောက်လာရင် ဘာဖြစ်သွားသလဲ။ တချို့က တည့်မတ်နေတဲ့ဦးခေါင်း ရှေ့ကိုစိုက်ကျလာတယ်။ တချို့က နောက်ကို လန်သွားတယ်။ မထိမ်းနိုင်တော့ဘူး။

တချို့ယောဂီတွေဆို ထိနမိဒ္ဓကြောင့် တရားပျောက်ပြီး ခေါင်းကြီး ငိုက်ဆင်းလာတာ ရှေ့ကယောဂီနဲ့တောင် တိုက်လုတိုက်လုပဲ။ တစ်ခါတလေဆို ဘုန်းကြီးတောင် စိတ်ပူတယ်။ နောက်ကို ပက်လက်လန် လဲတော့မလိုဘဲ။ ခန္ဓာကိုယ်ကို မထိန်းသိမ်းနိုင်တော့ဘူး။ တရားအမှတ်တွေ မထိန်းသိမ်းနိုင်တော့ဘူး။

ဘုန်းကြီးတို့ပရိသတ် ငယ်ငယ်က အိပ်ချင်မူးတူးနဲ့ စာကျက်ဖူးမှာပေါ့။ ဘုန်းကြီးတို့လည်း ဖြစ်ဖူးပါတယ်။ အတင်းမျက်လုံးဖွဲ့ပြီး ကျက်ပေမယ့်အိပ်ချင်နေတော့ စာတွေ မမြင်ဘူး။ စာအုပ်ကြီးကြည့်နေရက်နဲ့ စာတွေ ပျောက်ပျောက်သွားတယ်။ ပါးစပ်က အသံထွက်ဆိုနေရင်း ရပ်ရပ်သွားတယ်။ ဘယ်ရောက်သွားမှန်း မသိဘူး။ စာတွေ ဦးနှောက်ထဲ မဝင်ဘူး။ ကျက်လို့ကို မရဘူးနော်။ ထိနမိဒ္ဓကြောင့် အဲဒါစာကျက်လို့မရတာ မမှတ်မိတာပါ။

## စာမေ့တဲ့အကြောင်း

ဒါကြောင့် ကျက်မှတ်နေရင်း စာတွေမေ့သွားတယ်။ ကျက်လို့ မှတ်လို့ မရဘူးဆိုတဲ့ ပုဏ္ဏားကြီး

ကို မြတ်စွာဘုရားက စာမရတဲ့အကြောင်း စာမေ့တဲ့ အကြောင်းတစ်ခု ထပ်ပြီးဟောပြတယ်။

**"သဂါရဝပုဏ္ဏား- အိပ် ချင် ငိုက် မျဉ်း မှု ထိနမိဒ္ဓ ဝင်ရောက်လာမယ်ဆိုရင် နှစ်ပေါင်း များစွာ သင် ကျက်မှတ်ထားတဲ့စာတွေ ဉာဏ် မှာ မထင်နိုင်ဘဲ ပျောက်သွားပါမယ်။ မရသေး တဲ့စာတွေကိုလည်း သင် ဘယ်လောက်ကျက် ကျက် ရမှာမဟုတ်ဘူး။ ထိနမိဒ္ဓကို မဖျောက် နိုင်ရင်တော့ စာတွေ မေ့သွားမှာပါပဲ၊ ထိန-မိဒ္ဓတွေ ကင်းရှင်းနေတဲ့အချိန်ဆိုရင် သင် ရပြီး သားစာတွေလည်း မမေ့ဘူး။ မရသေးတာ တွေ ကျက်ရင်လည်း အလွယ်လေးနဲ့ ကျက် လို့မှတ်လို့ ရပါလိမ့်မယ်။"**

## ထိနမိဒ္ဓဝင်ရောက်လာရင်

ထိနမိဒ္ဓဟာ ဝီရိယကို ဖျက်ဆီးပစ်တဲ့ အပျင်း တရားပါ။ တဆန့်ဆန့်တငင်ငင်နဲ့ ကိုယ်ကို တွန့်လိမ်

ပြီး နေချင်တယ်။ မရွှင်မလန်း မတက်မကြွ ဖြစ်ရပါတယ်။ ထိနမိဒ္ဓ ဝင်ရောက်ရင် ဘာကိုမှ လုပ်ချင်စိတ်ကိုင်ချင်စိတ် မရှိဘဲ ပျင်းရိပါတယ်။ ဝီရိယတွေလည်း အားနည်းသွားတယ်။

"လမ်းမှားကို ကျင့်ရာမှာ ဝီရိယနည်းသူ သက်သာပြီး ဝီရိယကြီးသူ ဆင်းရဲရတယ်။

လမ်းမှန်ကို ကျင့်ရာမှာတော့ ဝီရိယနည်းသူ ဆင်းရဲရပြီး ဝီရိယကြီးသူသာ ချမ်းသာရတယ်။"

-လို့ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူတဲ့အတိုင်း ထိနမိဒ္ဓနှိပ်စက်လို့ ဝီရိယအားနည်းရင် တရားတွေ မတိုးတက်တော့ဘူး။ တရားချမ်းသာကို မရတော့ဘူး။

အိပ်ချင်စိတ်ဝင်တဲ့အတွက် ငိုက်မျဉ်းနေတယ်ဆိုတော့ ဘယ်လိုမှ တရားမမြင်နိုင်ဘူး။ မရသေးတဲ့ မဂ်ဖိုလ်တရားတွေလည်း မရပါဘူး။ ရပြီးသားကုသိုလ်တရား၊ သမာဓိတရားတွေတောင် ပျောက်ဆုံးသွားပါတယ်။

ခွန်အားကြီးသူလည်း ခွန်အား နည်းသွားပြီ။ ညဏ်ကောင်းသူလည်း ညဏ်ထိုင်းသွားရပြီ။ ဖွံ့လုံ့လရှိသူလည်း ဖွံ့တွေလုံ့လတွေ လျော့သွားပါပြီ။

ထိုင်းမှိုင်းဖျင်းအစေတဲ့ ထိနမိဒ္ဓဟာ အဆုတ်ဘက်ကို ဦးတည်ပါတယ်။ ဆုတ်ယုတ်တဲ့ဘက်ကိုသာ ရှေ့ရှုပါတယ်။ အောင်မြင်မှု တိုးတက်မှု ဘာတစ်ခုမှ မဖြစ်နိုင်အောင် ဟန့်တားနိုင်ပါတယ်။ ဖိနှိပ် ထားတတ်ပါတယ်။

တရားရှုမှတ်နေတယ် ထင်ပေမယ့် အရှုအမှတ်တွေ လွတ်စေတတ်ပါတယ်။ တရားတွေ မေ့ပျောက်သွားတဲ့အထိကို ဒုက္ခပေးတတ်ပါတယ်။

## စကြံမျှားမျှားလျှောက်

ဘုန်းကြီးတို့ပရိသတ် တရား အားထုတ်ရင်းငိုက်လာတဲ့အခါ မှိန်းမနေပါနဲ့။ ထိုင်ရာက ထပြီးစင်္ကြံလျှောက် ရှုမှတ်ပါ။

ဘုန်းကြီးတို့တရားစခန်းတွေမှာ တစ်နာရီထိုင်အားထုတ်ချိန်ပြီးရင် နာရီဝက် စင်္ကြံလျှောက် ရှုမှတ်

ဖို့ သတ်မှတ်ထားပါတယ်။ အိပ်ချင်စိတ်ပျောက် အောင်၊ ထိနမိဒ္ဓ ကင်းအောင်ပါ။

ပျင်းလို့ငိုက်လို့ဆိုပြီး ကျောခင်းလိုက်ရင်တော့ သွားပြီ။ အိပ်ပျော်ဖို့ များသွားပြီ။ ထိနမိဒ္ဓကို မတွန်း လှန်ရင် တရားအလုပ် မတွင်တော့ဘူး။ တသမ်း သမ်း တဝေဝေနဲ့ တရားတွေ အကုန်ပျောက်ပျက် မသွားအောင် စင်္ကြံများများလျှောက်ပြီး ရှုမှတ်ပါ။

## ထိနမိဒ္ဓပယ်ချင်ရင်

ထိနမိဒ္ဓနီဝရဏတွေ ကင်းရှင်း အိပ်ချင်ငိုက် မျဉ်းခြင်းတွေ မရှိဘဲနဲ့ ကြည်ကြည်လင်လင်နဲ့ တရားဓမ္မတွေကို ချမ်းချမ်းသာသာ ရှုမှတ်ပွားများ ချင်တယ်။ အားထုတ်ချင်တယ်ဆိုရင်-

၁။ အစာအာဟာရ လျှော့စားပါ။
၂။ ဣရိယာပုတ် ပြောင်းလဲပေးပါ။
၃။ အလင်းရောင်ကို နှလုံးသွင်းပေးပါ။
၄။ ဟင်းလင်းပြင် လွင်တီးခေါင်မှာ နေပါ။
၅။ ထိနမိဒ္ဓနည်းသူ မိတ်ဆွေများနဲ့ ပေါင်းသင်းပါ။

၆။ ထိနမိဒ္ဓပယ်တဲ့စကား ဝီရိယအားပေးစကားတွေ ကို ပြောပါ။

## အစားကြီးသူတွေ

အစာအာဟာရ စားသောက်ရာမှာ အတိုင်း ထက်အလွန် စားရင် အစာအာဟာရ လွန်ကဲလို့ ခန္ဓာကိုယ်ပင်ပန်းပြီး ထိနမိဒ္ဓဝင်ပါတယ်။ ဘုန်းကြီး တို့စာပေထဲမှာ အစားကြူးတဲ့ ပုဂ္ဂိုလ်ငါးဦး ရှိပါ တယ်။

အာဟာရ ဟတ္ထကပုဂ္ဂိုလ်ကား အစာစားပြီးရင် မထနိုင်တော့လို့ သူများက လက်ဆွဲ ထူရလောက် အောင် စားသူပါ။ အလံသာဋကပုဂ္ဂိုလ်ကတော့ ဗိုက်တွေသိပ်ကို တင်းနေအောင် ဗိုက်ပူနံကား ဖြစ် အောင် စားထားလို့ ကိုယ့်ပုဆိုးတောင် ကိုယ် မဝတ် နိုင်ဘဲ သူများက ဝတ်ပေးရတဲ့သူပါ။ ပုဆိုး ကျွတ် အောင်ကို စားသူပါ။ တတြဝဋ္ဋကပုဂ္ဂိုလ်ကား လဲကျ တဲ့အထိ စားပါသတဲ့။ စားပြီးရင် မထနိုင်ဘဲ လူး လိမ့်နေရပါတယ်။ ကာကမာသကပုဂ္ဂိုလ်ကလည်း အစာတွေဟာ ဗိုက်ထဲတင်မက လည်ချောင်းထဲတင်

မက ပါးစပ်ထဲပါ ပြည့်နေလို့ ကျိုးကန်းတောင် နှိုက်စားရင် မီလောက်ပါသတဲ့။ ဘုတ္တာဝမိတကပုဏ္ဏားကတော့ စားပြီးရင် အန်ကို ထုတ်ပစ်ရပါတယ်။

ဒီပုဏ္ဏားတွေလို စားသူတွေဟာ စားပြီးရင် နေလို့ထိုင်လို့ မချမ်းသာတော့ပါဘူး။ ထိနမိဒ္ဓတွေ ဝင်လာပါတယ်။ ဒါကြောင့် အစားများစွာ စားပြီး မြတ်စွာဘုရား ရှေ့မှာတောင် ဟန်မဆောင်နိုင်အောင် ငိုက်နေတဲ့ ပသေနဒီကောသလမင်းကို မြတ်စွာဘုရားက အစာလျှော့စားဖို့ ပြောတော်မူပါတယ်။ စားလို့ မဝခင်မှာ ရေသောက်ပြီး တင်းတိမ်လိုက်ဖို့ ဟောကြားတော်မူခဲ့ပါတယ်။

# ဣရိယာပုတ် ပြောင်းလဲ

ထိုင်ပြီး အားထုတ်လို့ အချိန်ကြာလာရင် ဘုန်းကြီးတို့ပရိသတ် ထိနမိဒ္ဓဝင်ပြီး အိပ်ချင်လာပါတယ်။ ကျောခင်းပြီးတော့ အိပ်ရာထဲမှာ သက်သာခိုနေရင်လည်း အိပ်ပျော်သွားတတ်ပါတယ်။ ထိန-မိဒ္ဓမဝင်အောင် ဣရိယာပုတ်တစ်မျိုးထဲနဲ့ အကြာကြီး မနေဘဲ အားထုတ်ပါ။

ထိုင်လို့ ညောင်းရင် စင်္ကြံလျှောက်ပါ။ အခန်းထဲမှာချည်း အောင်းမနေပါနဲ့။ အမှောင်ထဲမှာ အနေကြာလို့ ငိုက်လာရင် အလင်းရောင်ထဲထွက်ပြီး အားထုတ်ပါ။ ထိနမိဒ္ဓဝင်လာတာဟာလည်း တရားမတိုးတက်ကြောင်းပါ။ တရားမရစေတဲ့အကြောင်းတစ်ခုပါ။ ဝီရိယနဲ့ ကြိုးစားလိုက်ရင် ထိနမိဒ္ဓတွေ မနေနိုင်ဘဲ လွင့်စဉ်သွားပါတယ်။

## မုဆိုးကြီးမိလက

သီဟိုဠ်ကျွန်းက ရောဟနကဇနပုဒ်မှာ မိလကဆိုတဲ့ မုဆိုးကြီးတစ်ယောက် ရှိခဲ့ဖူးပါတယ်။ နေ့စဉ်နေ့တိုင်း စားဝတ်နေရေးအတွက် တောထဲသွားအမဲလိုက်ပါတယ်။ ထောင်ချောက်တွေ ကျော့ကွင်းတွေနဲ့လည်း ဖမ်းဆီးပါတယ်။ တောထဲက ရသမျှသားကောင်မျိုးစုံကို ပစ်ခတ်သတ်ဖြတ်ပြီး ရောင်းတယ်။ ကိုယ်တိုင်လည်း ဖုတ်ကင်ကြော်လှော်ပြီး စားပါတယ်။

တစ်နေ့တော့ တောထဲ အမဲလိုက်ရင်း ရေဆာတာနဲ့ တောရကျောင်းထဲဝင်ပြီး ရေသောက်တယ်။ ရေအိုးထဲ ရေတစ်စက်မှ မမြင်တော့ စိတ်ဆိုးဆိုးနဲ့-

"တောကျောင်းရဟန်းတွေကလည်း စား ပြီးတာနဲ့ အိပ်နေသလား၊ သောက်ရေအိုးထဲ တောင် ရေမထည့်ထားဘူး၊ အပျင်းထူလိုက်တာ"လို့ ပြစ်တင်ကဲ့ရဲ့ပါတယ်။

အသံကြားလို့ တောကျောင်းနေတဲ့ အရှင်မြတ် ထွက်လာပြီးကြည့်တော့ အိုးထဲမှာ ရေအပြည့်ရှိတာ ကို တွေ့ပါတယ်။ "အကုသိုလ် အတော်များသူပဲ၊ လူ စင်စစ်က ပြိတ္တာဖြစ်နေသူပဲ"လို့ စဉ်းစားမိပါတယ်။ "ဒီအတိုင်းဆိုရင် သေပြီးတဲ့နောက် အပါယ်ငရဲကို ရောက်မှာ သေချာတယ်"လို့ တွေးမိကာ သနား သွားပါတယ်။

ကိုယ်တိုင်ခပ်ပြီးတိုက်မှ မိလက္ခမုဆိုးကြီး ရေ သောက်ရရှာတယ်။ သတ်ဖြတ်တဲ့အကုသိုလ်ကံတွေ ကြီးမားလွန်းတာကြောင့် ရေတောင် မသောက်ရတဲ့ အထိ ဖြစ်တာပါ။ ရေတွေ ရှိရက်သားနဲ့ မမြင်ရ မသောက်ရ ဖြစ်နေတာပါ။

# သတိပေးလိုက်လို့

"ဒီကာ သင်လုပ်ထားတဲ့ အကုသိုလ်တွေဟာ ကြက်သီးထလောက်အောင် ကြောက်စရာ ကောင်းနေပြီ။ ချက်ချင်း အကျိုးပေးနေပြီ။ ရေသောက်ချင်တာတောင် မသောက်ရတဲ့ ပြိတ္တာအဖြစ်မျိုးနဲ့ ကြုံနေရပြီ။ နောင်သံသရာမှာ ဘယ်လောက်တောင် ဒုက္ခခံရအုံးမလဲဆိုတာ စဉ်းစားသာ ကြည့်တော့"လို့ ပြောဆိုဆုံးမပါတယ်။

အဲဒီတော့မှ မိလက သိပ်ကို ကြောက်သွားတယ်။ ကိုယ့်အပြစ်တွေ ကိုယ် ပြန်မြင်ပြီး လန့်လာတယ်။ လက်တွေ့ခံစားနေရပြီကိုး။

ချက်ချင်း လေးတွေမြားတွေ လွှင့်ပစ်၊ ထောင်ချောက်တွေ ရိုက်ချိုး၊ ကျော့ကွင်းတွေ ပိုက်ကွန်တွေ ဖျက်ဆီးပစ်ပြီး မထေရ်မြတ်ထံမှာ ရှင်ရဟန်း ပြုခွင့် တောင်းပါတယ်။ အကုသိုလ်အပြစ်ကြွေးတွေ ပေးဆပ်ဖို့ သာသနာ့ဘောင်မှာ တရားကျင့်ခွင့် ပြုဖို့ လျှောက်ထားပါတယ်။

အရှင်မြတ်ကလည်း တစပဥ္စက ကမ္မဋ္ဌာန်းပေး ပြီး ရှင်ပြုပေးလိုက်တယ်။ အချိန်မီ သတိရသွားလို့ တော်သေးတာပေါ့။ သေတဲ့အထိ မိုက်မသွားလို့ ကံကောင်းတယ်လို့ ပြောရမှာပါ။

# တရားအားထုတ်ပြီ

ရှင်မိလကဟာ ကြိုးစားပြီး ကျင့်ကြံပါတယ်။ ကြိုးစားပြီး ရှုမှတ်ပါတယ်။ ဒါပေမယ့် တရားကို ဘယ်လိုမှ အာရုံပြုလို့မရပါဘူး။ မုဆိုးဘဝက သား သမင်တွေ သတ်ဖြတ်ခဲ့တာ၊ လေး, မြား, ထောင်ချောက်တွေ ပြင်ဆင်ခဲ့တာ။ တောထဲတောင်ထဲ လှည့်ပတ်သွားနေခဲ့တာပဲ ပြန်ပြီးတော့ မြင်ယောင်နေပါတယ်။ နှစ်ပေါင်းများစွာ လုပ်ခဲ့တာတွေက စွဲမြဲနေတော့ မျက်စိမှိတ်ထားလည်း ပြန်ပေါ်နေပြီပေါ့။

ရုပ်နာမ်ဓမ္မတွေလည်း ရှုမှတ်လို့မရ။ စိတ်တွေကလည်း မငြိမ်တော့ တရားအားထုတ်လို့ အဆင်မပြေပါဘူး။ နှလုံးသွင်းအာရုံပြုလို့လည်း မရပါဘူး။

ဘုန်းကြီးတို့ပရိသတ် သူတော်ကောင်းစိတ်ဝင်လာရင် ဆိုးခဲ့မိုက်ခဲ့တာတွေက ပြန်ပြီး ခြောက်လှန့်တတ်ပါတယ်။ တေတေပေပေနေစဉ်က အကုသိုလ်လို့တောင် မထင်ပေမယ့်၊ ဂရုမစိုက်ပေမယ့် ခုကျတော့ ကြောက်လန့်ရပြီပေါ့။ "ဒီအတိုင်းဆို မဖြစ်တော့ဘူး။ တရားအားထုတ်လို့မှ မရရင် လူပြန်ထွက်တာပဲ ကောင်းတယ်"လို့ တွေးပြီး ဥပဇ္ဈာယ်ဆရာထံသွားပြီး လျှောက်ထားပါတယ်။ လူထွက်ခွင့်ပြုပါတော့လို့ တောင်းပန်ပါတယ်။

## ငရဲမီး ပူကြောင်းပြ

ရှင်မိလကဟာ တရားနဲ့သာ မတားဆီးနိုင်ရင် ကျိန်းသေငရဲကျရမှာပါ။ ငရဲဒုက္ခတွေ ခံရတော့မှာ သေချာနေပါပြီ။ ဒါကြောင့် အရှင်မြတ်က လူမထွက်ဘဲ တရား ဆက်ကြိုးစားရအောင် ငရဲမီး ဘယ်လောက် ပူတယ်ဆိုတာ ပြပါတယ်။

"ငါ့ရှင်မိလက ရေစိုနေတဲ့ ထင်းတုံးတွေ၊ သစ်တုံးတွေ၊ သစ်စိမ်းဝါးစိမ်းတွေ သင် ရသလောက်ရှာစုပါ။ တစ်နေရာမှာ စုပုံပြီးထားပါ"လို့ မိန့်တော်

မူပြီး တန်ခိုးနဲ့ မဟာအဝီစိငရဲကို ကြွပါတယ်။ ပိုးစိမ်းဖြူလောက်ရှိတဲ့ ငရဲမီး အမှုန်အမွှားလေး ယူလာခဲ့ပါတယ်။

ရှင်မိလကနဲ့ သာမဏေတွေ ဝိုင်းဝန်းစုထားတဲ့ ရေစိုထင်းပုံကြီးထဲကို ငရဲမီးပွားလေး ပစ်ထည့်လိုက်တယ်ဆိုရင်ပဲ ဟုန်းခနဲ တောက်လောင်ပြာကျသွားပါတယ်။ ရှင်မိလကဟာ ငရဲမီး အဆမတန် ပူလောင်တယ်ဆိုတာ သိသွားတဲ့အခါ ကိုယ်တွေ့မြင်သွားတဲ့အခါ လူမထွက်ရဲတော့ပါဘူး။

တရားအလုပ်မှာ နောက်ဆုတ်လိုက်ရင် ငရဲမီး အလောင်ခံရဖို့ပဲ ရှိတော့တယ်။ ကြိုးစားမှ ဖြစ်မယ်လို့ ထိတ်လန့်သံဝေဂ ဖြစ်ပါတယ်။ ငရဲဘေးက လွတ်ရာလွတ်ကြောင်း ဒုက္ခခပ်သိမ်း ငြိမ်းရာငြိမ်းကြောင်း တရားကောင်းကို ကြိုးစားအားထုတ်ပါပြီ။ နောက်မဆုတ်တမ်း ဇွဲနဲ့ကို ကြိုးစားပါပြီ။

## အိပ်ချင်စိတ်ကို တိုက်ဖျက်

ဘုန်းကြီးတို့ပရိသတ် တကယ်တမ်း ကြိုးစားအားထုတ်ကြတဲ့အခါမှာ တရားရဲ့ ကြီးစွာသော အနှောင့်အယှက်က အိပ်ချင်စိတ်ပါပဲ။ လောဘ

ဒေါသတွေကို သတိထားနေရင် ရတယ်။ ကာမစ္ဆန္ဒ၊ ဗျာပါဒတို့ထက် အနိုင်ရဖို့ခက်တာက ထိနမိဒ္ဓပါ။ အရှုခံရုပ်နာမ်မှာ ရှုစိတ်တည်သွားပြီ၊ ငြိမ်နေပြီဆိုတာနဲ့ ဘယ်ကဘယ်လို ရောက်လာမှန်းမသိဘူး။ ထိနမိဒ္ဓက ကပ်ပြီးဝင်လာတယ်။

ရှုလို့ကောင်းနေတယ်။ အားထုတ်လို့ကောင်းနေတယ်ဆိုရင် သူ ဝင်လာပြီ။ သတိမထားရင် ဘုန်းကြီးတို့ပရိသတ် ရှုမှတ်တယ်ထင်ပြီး ငိုက်နေတတ်တယ်။ မောင်းထုတ်ဖို့လည်း ခက်တယ်။ အိပ်ချင်စိတ်ဖျောက် ပြန်ရှုမှတ်၊ နောက်မကြာဘူး၊ ပြန်အိပ်ချင်ပြန်တယ်။ ပြန်ပြန်ပြီး ငိုက်တတ်တယ်။ တော်ရုံတန်ရုံ ဝီရိယနဲ့တော့ ထိနမိဒ္ဓက မကြောက်ဘူး။

ရှင်မိလက-ကတော့ တကယ်လည်း ငရဲကြောက်သွားတဲ့သူ၊ လူကလည်း ခပ်ကြမ်းကြမ်းလူဆိုတော့ ထိနမိဒ္ဓကို ချော့မနေဘူး။ ပျော့မနေဘူး။ ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်းပဲ တိုက်ထုတ်ပစ်တယ်။ အိပ်မငိုက်အောင် ကောက်ရိုးကရွတ်ခွေကြီး ရေစိမ်ပြီး ခေါင်းပေါ် စွပ်ထားတယ်။ ခြေထောက်ကို ရေစိမ်

ပြီးထိုင်တယ်။ မအိပ်မနေ ဆိုရလောက်အောင်ကို အားထုတ်ပါတယ်။

## စာကျက်သံကြားရ

တစ်ညမှာတော့ ရှင်မိလကဟာ ထိနမိဒ္ဓ နှိပ်စက်လွန်းလို့ အိပ်ချင်စိတ်ပျောက်အောင် ကြိုးစားရှုမှတ်နေတုန်း ခပ်လှမ်းလှမ်းက ကိုရင်တစ်ပါး စာကျက်သံကို ကြားလိုက်ပါတယ်။

အာရဗ္ဘထ နိက္ကမထ၊ ယုဉ္ဇထ ဗုဒ္ဓသာသနေ။
ဓုနာထ မစ္စုနော သေနံ၊ နဠာဂါရံဝ ကုဉ္ဇရော။

ဗုဒ္ဓသာသနေ-ငါးမာရ်အောင်မြင်ဘုရားရှင်၏ သုံးခွင်သောသာသနာတော်မြတ်ကြီး၌၊ အာရဗ္ဘထ- ထထကြွကြွ ကြိုး စား လိုက် ကြ ပါ ကုန် လော့။ နိက္ကမထ- အပျင်းတရား ပျောက်ပျက်သွားအောင် မဆုတ်မနစ် အား သစ် လိုက် ကြ ပါ ကုန် လော့။ ယုဉ္ဇထ- မရပ်မနားထပ်ထပ်ပွားအောင် ရှုမှတ်အား ထုတ်လိုက်ကြပါကုန်လော့။

ကုဋ္ဌရော- စွယ်စုံဆင်ပြောင်ကြီးသည်၊ နဠာ- ဂါရံ-ကျူထရံအိမ်ငယ် ဝါးအိမ်ငယ်ကို၊ ဒုနာတိဣဝ - အလွယ်တကူမှုန့်မှုန့်ညက်ညက်နင်းချေဖျက်သကဲ့သို့၊ တုမှေ- သင်သူတော်ကောင်းတို့သည်။ မစ္စုနော သေနံ- ကိလေသာရန် မာရ်စစ်သည်အပေါင်းကို၊ ဒုနာထ- မှုန့်မှုန့်ညက်ညက် နင်းချေကာ ဖျက်ဆီးလိုက်ကြပါကုန်လော့။

ကိုရင်လေး ကျက်နေတဲ့စာက ဝီရိယကို တွန်းအားပေးတဲ့တရားစာပါ။ သာသနာတော်မှာ မပျင်းမရိ ကြိုးစားဖို့ တိုက်တွန်းတာပါ။ "ဆင်ပြောင်ကြီးဟာ ဝါးအိမ်တဲအိမ်လေးကို အလွယ်တကူနဲ့နင်းချေနိုင်သလို ဝီရိယဆင်ပြောင်ကြီးနဲ့ အပျင်းတရားတွေ၊ အငိုက်တရားတွေကို တိုက်ထုတ်ဖျက်ဆီးပါ" လို့ ဗုဒ္ဓမတ်စွာ ဟောကြားတဲ့ တရားဓမ္မကို ကျက်မှတ်နေသံကို ရှင်မိလက အသေအချာ ကြားလိုက်ရပါတယ်။

## ဝီရိယသုံးမျိုး

ဘုန်းကြီးတို့ပရိသတ်- ကောင်းတဲ့ အလုပ်ကို ကြိုးစားအားထုတ်ကြတဲ့နေရာမှာ အပျင်းကို နိုင်ဖို့

အတွက် ဝီရိယသုံးမျိုး လိုအပ်ပါတယ်။ ကောင်းတဲ့ အလုပ်ကို စတင်ပြီး လုပ်ဖို့ဆိုတာ ခက်ပါတယ်။ ကောင်းမှန်း သိသိကြီး၊ လုပ်သင့်မှန်းသိသိကြီးနဲ့ကို စ,လုပ်ဖို့ ခက်ပါတယ်။ စမိပြန်ရင်လည်း အဆုံး မသတ်ဘဲ ဝေ့သွားတာ၊ လည်သွားတာနဲ့ ပြီးဆုံး အောင်မြင်ဖို့ ခက်ပါတယ်။ အစကနေအဆုံး ပြီး ပြတ်သည်အထိ အောင်မြင်သည်အထိ ရောက် အောင် ဆောင်ရွက်နိုင်ဖို့ **အာရမ္ဘဓာတ်** ဝီရိယလို အပ်ပါတယ်။

တစ်ခါတလေမှာ လုပ်ရင်းလုပ်ရင်းနဲ့တွန့်ဆုတ် ပြီး ပျင်းလာပါတယ်။ တရားရှုမှတ်ရင်း ဆက်မရှုချင် တော့ဘဲ ပျင်းလာတာမျိုးပေါ့။ အဲဒီအပျင်းတရားကို ကျော်လွှားနိုင်ဖို့အတွက် အားသစ်လောင်းပေးရပါ တယ်။ စောသေးလို့၊ နေမြင့်နေပြီ၊ ဆာနေတယ်-စ တဲ့ အပျင်းရှစ်မျိုးကို နိုင်အောင် **နိက္ကမဓာတ်** ဝီရိယ နဲ့ ရိုက်ချိုးရပါတယ်။

ပျင်းတာ ငိုက်တာကို နိုင်ရုံနဲ့ကျေနပ်မနေဘဲ ဝီရိယတွေ အမြဲတမ်း ဆင့်ကာဆင့်ကာ တိုးပွားနေ အောင် ကြိုးစားရပါသေးတယ်။ ရပ်တန့်မနေဘဲ

ကောင်းတဲ့လုပ်ငန်းတွေတိုးတက်သွားအောင် တရှိန်ထိုး ထိုးတက်သွားအောင် **ပရက္ကမဓာတ်** ဝီရိယ လိုပါတယ်။

ဒီဝီရိယ သုံးမျိုးနဲ့ ကြိုးစားလိုက်ရင်တော့ မအောင်မြင်တာမရှိတော့ပါဘူး။ ထိနမိဒ္ဓတွေလည်း ဝေးရာကို ပြေးကြရပါပြီ။ အပျင်းတရားတွေ ကွယ်ပျောက်ပြီး ဝီရိယတွေ ထက်သန်သွားပါပြီ။

# ရဟန္တာဖြစ်သွား

ရှင်မိလကဟာ တရားဓမ္မသံကို ကြားလိုက်တဲ့ အခါ ပျင်းရိထိုင်းမှိုင်းတာတွေ ပျောက်သွားပါတယ်။ မြတ်စွာဘုရားရဲ့ ဟောကြားချက်နဲ့အညီ ကြိုးစားကျင့်ကြံနေလို့လည်းဝမ်းသာအားရဖြစ်လာပါတယ်။

"ကြိုးစားရင် ရမယ်"လို့ ယုံကြည်ချက်နဲ့ အားတက်ပြီး ရှုမှတ်တဲ့အခါ နှစ်သက်မှု ပီတိ၊ ချမ်းသာတဲ့ သုခတွေ ဖြစ်လာပါပြီ။ ပီတိသုခတွေ အခြေခံကာ အားထုတ်ပြန်တော့ ရုပ်နာမ်တရားတို့ရဲ့ သဘာဝကို ကွက်ကွက်ကွင်းကွင်း မြင်လာပါတယ်။

ခန္ဓာကိုယ်ပေါ်မှာ မမြဲတဲ့သဘော၊ ဆင်းရဲတဲ့သဘော၊ အစိုးမရတဲ့သဘောတရားတွေကို ဆက်လက် ရှုမှတ်သွားတော့ အနာဂါမ်အဆင့်ကို ရောက်ပါတယ်။ ဆက်ပြီးအားထုတ်တဲ့အခါ ပဋိသမ္ဘိဒါ လေးပါးနဲ့တကွ ရဟန္တာဖြစ်သွားပါတော့တယ်။

(သံယုတ္တ– ၄)

ပရိနိဗ္ဗာန်ဝင်စံကာနီးမှာ-

“ငါ့ရှင်တို့- ရေစိုစွတ်တဲ့ ကောက်ရိုးကရွတ်ကို ခေါင်းမှာ စွပ်ပြီး ငါဟာ ကြိမ်ဖန်များစွာ စကြံလျှောက်ခဲ့ပါတယ်။ ဒါကြောင့် တတိယဆင့် အနာဂါမ် နေရာသို့ ထုတ်ချင်းပေါက်အောင် တစ်ဆက်ထဲ ရောက်ခဲ့ပါတယ်။ ယုံမှားသံသယတွေ ကင်းရှင်းပါတယ်”

-လို့ အတုယူ အားထုတ်ဖို့ ဟောကြားတော်မူခဲ့ပါတယ်။

## စာ မမေ့တဲ့အကြောင်း

ထိနမိဒ္ဓတွေကို နှိမ်နင်း ပယ်ဖျောက်ထားရင် အိပ်ချင်ငိုက်မျဉ်းမှုတွေကင်းနေရင် စာတွေကို မမေ့

မပျောက်တဲ့အကြောင်း မြတ်စွာဘုရားရှင်က သင်္ဂါ-ရဝပုဏ္ဏားကြီးကို မိန့်တော်မူပါတယ်။

**“သင်္ဂါရဝပုဏ္ဏား- ထိနမိဒ္ဓတွေ မနှိပ်စက်ဘူးဆိုရင်၊ထိနမိဒ္ဓတွေကင်းပျောက်နေမယ်ဆိုရင် သင် ကျက်မှတ်ထားတဲ့စာတွေ သင်မမေ့ပါဘူး။ မှတ်ဉာဏ်ထဲက ပျောက်ကွယ် မသွားပါဘူး။ နေ့တိုင်း ကျက်မှတ်နေရင်တော့ ပြောစရာတောင် မလိုတော့ဘူး။ ဘယ်လိုလုပ်ပြီး မေ့မှာလဲ။”**

**“သင်္ဂါရဝပုဏ္ဏား- ရေမှော်ရေညှိတွေ ဖုံးနေတဲ့အတွက် ရေခွက်ထဲမှာ ငုံ့ကြည့်ပေမယ့် မျက်နှာရိပ်ကို မမြင်ရပါဘူး။ ရေမှော်ရေညှိတွေ ကင်းနေရင် ကြည်လင်နေရင်တော့ အရိပ်ကို မြင်ပါတယ်။”**

ဘုန်းကြီးတို့ပရိသတ်- ရှင်မိလကကြီးဟာ ထိန-မိဒ္ဓကို မနိုင်သေးခင်က တရားမရဘူးနော်။ ဝီရိယနဲ့ အားတင်းပြီး ထိနမိဒ္ဓကိုလည်း ပယ်ဖျောက်လိုက်ရော တရားလည်း ရသွားပါတယ်။ ဒါကြောင့် ထိန-မိဒ္ဓဟာ တရားမရတဲ့အကြောင်းတစ်ပါးလို့ ပြောရပါမယ်။

# ရေမှော်ရေညှိတွေ ဖုံး

ရေမှော်ရေညှိနဲ့ မြတ်စွာဘုရား ဥပမာပေးသွားသလိုပါပဲ၊ ထိနမိဒ္ဓတွေဟာ တရားကို ဖုံးကွယ်ထားကြပါတယ်။ ရေမှော်ရေညှိတွေ ဖုံးနေရင် အရိပ်မမြင်ရသလို ထိနမိဒ္ဓတွေ ဖုံးနေရင်လည်း တရားမမြင်တော့ဘူးပေါ့။

## * ရေမှော် ဖုံးထား ရေခွက်အလား ထင်ရှား မမြင်ပြီ။

တရားအားထုတ်ရင် အိပ်ချင်စိတ်ကို ထိန်းရပါတယ်။ အပျင်းစိတ်ကို နှိမ်ရပါတယ်။ ခုနက ရေခွက်၊ သန့်ရှင်းနေတဲ့ ရေခွက်ထဲကို ရေမှော်ရေညှိတွေ ဖုံးသွားတယ်။ အမှိုက်သရိုက်တွေ ဝင်သွားတယ်။ အမှိုက်တွေ အနည်တွေ ထလို့ နောက်နေတယ်။ အရိပ်မထင်ရှားတော့ပါဘူး။

တချို့က ပြောကြပါတယ်။ တရားအားထုတ်ရင် အိပ်ချင်တယ်တဲ့။ အဲဒါထိနမိဒ္ဓကို မကျော်နိုင်တဲ့သဘောပါ။ စိတ်ဝင်စားမှုနည်းတဲ့သဘောလည်း ပါပါတယ်။

တရားအလုပ်မှ မဟုတ်ပါဘူး။ ဘယ်အလုပ်ကို လုပ်လုပ်၊ စိတ်မဝင်စားရင် အိပ်ချင်ပါတယ်။ တက်တက်ကြွကြွ မရှိတဲ့အတွက် ငိုက်လာပါတယ်။ စိတ်တွေ မရွှင်လို့ မလန်းလို့ ထိုင်းမှိုင်းပြီး အိပ်ငိုက်ပါတယ်။

စိတ်ဝင်စားတဲ့အလုပ်ဆို မအိပ်ချင်ပါဘူး။ အိပ်ချိန်ရောက်တာတောင် အိပ်မငိုက်ပါဘူး။ စိတ်တွေ တက်ကြွနေ လန်းဆန်းနေလို့ပါ။ ကိုယ့်အလုပ်ထဲ စိတ်ဝင်စားပြီး ပျော်ရွှင်နေလို့ပါ။

ရေခွက်ထဲဝင်နေတဲ့ ရေမှော်တွေ အမှိုက်တွေကို ဆယ်ယူလိုက်ရင် သန့်စင်ပြီး ရေခွက်ထဲက ရေတွေ ကြည်လင်သွားသလို ထိနမိဒ္ဓကို ပယ်ဖျောက်လိုက်ရင် စိတ်ကို ဆုံးမပြီး ဝီရိယနဲ့ အားစိုက်လိုက်ရင် ထိနမိဒ္ဓတွေ ကင်းစင်ပါတယ်။ တရားတွေကိုလည်း မြင်နိုင်ပါတယ်။ မရသေးတဲ့တရားတွေလည်း ရပြီး၊ ရပြီးသားတရားတွေလည်း ပျောက်မသွားတော့ပါဘူး။

# စိတ်အားကို တင်းတင်းထား

ဘုန်းကြီးတို့ပရိသတ်- ဒုက္ခလွတ်ရာ နိဗ္ဗာန် ရောက်အောင် သွားတဲ့နေရာမှာ စိတ်တွေ လျှော့နေ၊ ပျော့နေလို့ မရဘူး။ စိတ်အားကို တင်းထားရမယ်။ ပျင်းရိပျော့ခွေလာရင် စိတ်တင်းပါ။ ကိုယ့်ကိုယ်ကို ပြန်ပြီး သတိပေးပါ။ စိတ်ကို ဆုံးမပါ။

"ငါ ဒီနေရာကိုရောက်နေတာဟာ အိပ်ဖို့လာခဲ့တာ မဟုတ်ဘူး။ ပျင်းရိနေ၊ အိပ်ငိုက်နေရင် ငါ ဘယ်နည်းနဲ့မှ တရားရမှာ မဟုတ်ဘူး။ ကြိုးစားအားထုတ်မှ ငါ ရချင်တဲ့တရားကို ရမယ်။ ငါ ရောက်ချင်တဲ့ နိဗ္ဗာန်ကို ရောက်မယ်။"

- လို့ ဝီရိယအကျိုးကို ဆင်ခြင်ပါ။

"ဒီအတိုင်းသာ ပျင်းရိနေ ငိုက်မျဉ်းနေမယ်ဆိုရင် အပါယ်ဘေးက လွတ်မှာ မဟုတ်ဘူး။ မေ့လျော့ပေါ့ဆတဲ့သူတို့ရဲ့ နေရာဟာ အပါယ်လေးဘုံသာ ဖြစ်တယ်။ ဝဋ်ဆင်းရဲက လွတ်မြောက်အောင် အားထုတ်ရမယ့် အချိန်

မှာ ပျင်းရိနေမယ်။ ထိနမိဒ္ဓကို အညှံ့ခံလိုက်မယ်ဆိုရင် ဝဋ်ဆင်းရဲမှာ ဘေးဒုက္ခတွေ ကြုံလိမ့်မယ်။ ”

-လို့ အပါယ်လေးပါးနဲ့ ဝဋ်ဆင်းရဲရဲ့ ဘေးဒုက္ခများကို ဆင်ခြင်ပါ။

“ဘုရား၊ ပစ္စေကဗုဒ္ဓါ၊ ရဟန္တာအရှင်မြတ်များဟာ ဝီရိယလမ်းပေါ်က လျှောက်သွားကြလို့ နိဗ္ဗာန်ကို ဝင်စံသွားကြပြီ။ ထိုအရှင်မြတ်များရဲ့ လမ်းစဉ်အတိုင်း ငါလည်း လျှောက်မှဖြစ်မယ်။ နိဗ္ဗာန်လမ်းဟာ လူပျင်းတွေအတွက် မဟုတ်ဘူး။ ငါ ပျင်းနေရင် ငါ ငိုက်နေရင် ငါလည်းမသွားနိုင်ဘူး။ ဘာပဲဖြစ်ဖြစ် ထိနမိဒ္ဓဆူးငြောင့်တွေကို ဖယ်ရှားပြီး နိဗ္ဗာန်လမ်းပေါ် ငါ လျှောက်မယ်။”

-လို့ သူတော်သူမြတ်တို့ရဲ့ အကျင့်လမ်းစဉ်ကို ဆင်ခြင်ပါ။

သဒ္ဓါတရား တက်စေတဲ့ အတွေးအကြံများ၊ ဝီရိယအင်အား တိုးပွားစေတဲ့ စိတ်ကူးများနဲ့ စိတ်

ကို တင်းထားလိုက်ရင် ထိနမိဒ္ဓခိုကပ်ပြီး မနေနိုင်တော့ပါဘူး။

မြတ်စွာဘုရားရှင်ရဲ့ ဖွဲ့လုံ့လ ကြီးမားပုံ၊ ဝီရိယအားကိုးပြီး ပါရမီဆယ်ပါး ဖြည့်ကျင့်တော်မူပုံ၊ လေးဆယ့်ငါးနှစ်-လေးဆယ့်ငါးဝါအတွင်း သတ္တဝါများရဲ့ အကျိုးစီးပွားအတွက် မနေမနား ကြိုးစားကယ်တင်တော်မူပုံတွေကို ဆင်ခြင်နှလုံးသွင်းရင်လည်း ဘုန်းကြီးတို့ပရိသတ်မှာ ထိနမိဒ္ဓ ပယ်ဖို့ တွန်းအားတွေ ရလာပါမယ်။ တရားမရကြောင်းတစ်ပါးကို ဖယ်ရှားနိုင်ပါမယ်။

## ဝီရိယဖြစ်ကြောင်း နှစ်မျိုး

ရေခွက်ထဲရောက်နေတဲ့ ရေမှော်တွေ၊ အမှိုက်သရိုက် အညစ်အကြေးတွေကို ဆယ်မထုတ်ဘူး၊ ရှင်းမပစ်ဘူးဆိုရင် သန့်စင်တဲ့ရေကို မရပါဘူး။ အဲဒီလိုပါပဲ၊ စိတ်မှာ ငြိတွယ်နေ ကပ်နေတဲ့ ထိနမိဒ္ဓ ရေမှော်တွေ၊ ထိနမိဒ္ဓအမှိုက်သရိုက်တွေကို ဝီရိယထုတ်ပြီး ဆယ်ယူမှ၊ ကြိုးစားရှင်းလင်းမှ ထိနမိဒ္ဓ ကင်းပြီး သန့်ရှင်းကြည်လင်တဲ့စိတ် ဖြစ်လာမယ်။ မြင့်မြတ်တဲ့တရားဓမ္မတွေ ကိန်းဝပ်နိုင်ပါမယ်။

ဒါကြောင့် ဝီရိယဖြစ်ပေါ်အောင် စိတ်ထားနည်း ရှစ်မျိုးကို မြတ်စွာဘုရားရှင်က ဒီဃနိကာယ်၊ သင်္ဂီတိသုတ္တန်နဲ့ အင်္ဂုတ္တရနိကာယ် အဋ္ဌကနိပါတ်တို့မှာ အသေအချာ ဟောကြားတော်မူခဲ့ပါတယ်။

၁။ ပြုရမယ့်လုပ်ငန်းကိစ္စကို ရည်ညွှန်းအာရုံပြုပြီး "ငါ့မှာ မဖြစ်မနေလုပ်ရဦးမယ့် အလုပ်တစ်ခု ရှိနေပြီ။ ကိစ္စတစ်ခုတော့ပေါ်နေပြီ။ အဲဒီအလုပ်ကိစ္စကို လုပ်ရရင် အခုလုပ်နေတဲ့ တရားအလုပ် အားထုတ်နိုင်မှာ မဟုတ်ဘူး။ အခုထဲက ကြိုးစားအားထုတ်ထားမှ တော်ကာကျမယ်။ ပျင်းနေလို့ မဖြစ်ဘူး။ ငိုက်နေလို့ မတော်ဘူး"လို့ ကြိုတင် တွက်ဆထားပြီး ဝီရိယကို ထုတ်ယူပါ။

၂။ ပြီးစီးသွားတဲ့ လုပ်ငန်းကိစ္စကို ရည်ညွှန်းအာရုံပြုပြီး "ငါ့မှာ ကိစ္စသစ်တစ်ခု ကြားဖြတ်ပေါ်လာလို့ မလွှဲမရှောင်သာဘဲ တရားအလုပ် လစ်ဟင်းသွားရတယ်။ ခုတော့ ပြီးသွားပြီ၊ ရှင်းသွားပြီ။ လစ်ဟင်းသွားတဲ့အချိန်တွေကို အစားထိုးဖို့ တရားအလုပ်ကို ငါ ကြိုးစားမှတော်မယ်။ အရင်ကထက် ပိုပြီး ကြိုးစားလိုက်ဦးမှ"လို့ ဝီရိယအားကို ညှစ်ထုတ်ပါ။

၃။ ခရီးသွားမှုနဲ့ စပ်လျဉ်းပြီးတော့ "ငါ့မှာ ခရီးသွားဖို့ ရှိနေပြီ။ မဖြစ်မနေ သွားရဦးမယ်။ သွားပြန်ရင်လည်း တရားအလုပ် ပျက်ရဦးမယ်။ မသွားခင် ကြိုးစားအားထုတ်မှ"လို့ ဆင်ခြင်ပြီး လုံ့လစိုက်ပါ။

၄။ ခရီးက ပြန်ရောက်တဲ့အခါမှာ "ငါ့မှာ ခရီးသွားလို့တော့ပြီးပြီ။ ခရီးထွက်ခဲ့တာနဲ့ တရားအလုပ်တွေ အတော်ပျက်ခဲ့ရတယ်။ လစ်ဟင်းခဲ့ရတယ်။ ရောက်ခါစဆိုပြီး နားနေလို့ မတော်ဘူး။ ခရီးပမ်းလို့ဆိုပြီး သက်သာခိုပျင်းရိနေလို့ မဖြစ်ဘူး၊ ကြိုးစားပြီး အားထုတ်ဦးမှ"လို့ ဆင်ခြင် တွက်ဆပြီး လုံ့လစိုက်ပါ။

၅။ ရောဂါဝေဒနာခံစားနေရတာကိုအကြောင်းပြုပြီး "ငါ့မှာ မကျန်းမမာဖြစ်လာပြီ။ ရောဂါဝေဒနာတွေတော့ ဝင်လာပြီ။ ဒါထက်ဆိုးလာရင် ငါ တရားအလုပ်ကို လုပ်နိုင်ပါတော့မလား။ အလူးအလိမ့် ခံနေရရင် တရား နှလုံးသွင်းနိုင်ပါ့မလား။ ခုထဲက မပျင်းမရိ ကြိုးစားထားမှ"လို့ နှလုံးသွင်းပြီး ကြိုးစားပါ။

၆။ ရောဂါသက်သာ ပျောက်ကင်းသွားတာ အကြောင်းပြုပြီး "အခု ငါ့ရောဂါတွေက သက်သာစ ပြုလာပြီ။ ကံကောင်းလို့ သေမသွားတယ်။ သေသွားရင်တောင် ငါ့မှာ ဘာတရားမှ ပါသွားမှာ မဟုတ်ဘူး။ နေမကောင်းတဲ့အတွက် တရားအလုပ်တွေ အတော်ပျက်သွားတယ်။ အခုတိုးပြီး ကြိုးစားမယ်"လို့ နှလုံးသွင်းပြီး ကြိုးစားပါ။

၇။ အစာအာဟာရ ပြည့်စုံတာ၊ စားဝတ်နေရေး ပြေလည်တာကို ဆင်ခြင်ပြီး "ငါ့မှာ အခုတော့ စားစရာတွေ ပြည့်စုံနေတယ်။ စားဝတ်နေရေးတွေ ပြေလည်နေတယ်။ နောင်ကို ဘယ်လိုဖြစ်ဦးမယ်ဆိုတာ မသိနိုင်ဘူး။ မပြေလည်ရင် ခက်လိမ့်မယ်။ အခုအခြေအနေမှာ အဆင်ပြေတုန်း မျှတတုန်း ကြိုးစားမှ"လို့ တွက်ဆပြီး ဝီရိယထားပါ။

၈။ အစာအာဟာရ မပြည့်စုံတာ၊ စားဝတ်နေရေး ကြပ်တည်းတာကို ဆင်ခြင်ပြီး "ငါ့မှာ မပေါမများပေမယ့် မျှတနေသေးတယ်။ ကြပ်တည်းပေမယ့် အငတ်ဘေး မတွေ့သေးဘူး။ ဒါထက် ဆိုးလာရင်တော့ ခက်မယ်။ အခုနေခါ ကြိုးစားမှ"လို့ တွက်ဆပြီး ဝီရိယထားပါ။

ဘုန်းကြီးတို့ပရိသတ်- ကိုယ့်စိတ်ကို ဝီရိယဖြစ်လာအောင် နှိုးလုံးသွင်းပါ။ အပျင်းတရားတွေ ပြိုကွဲသွားအောင် ဆင်ခြင်ပါ။ အပျင်းဓာတ် အငိုက်ဓာတ်ကနေ ဝီရိယဓာတ်ဖြစ်အောင် ပြောင်းပေးလိုက်ရင် ထိနမိဒ္ဓနီဝရဏကို ကျော်လွှားနိုင်ပါပြီ။

❖ ❖ ❖

# ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ

## ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ

တရား မရကြောင်းဖြစ်တဲ့ နောက်နီဝရဏ တရားတစ်ပါးက ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏပါ။ ပျံ့လွင့်မှု ဥဒ္ဓစ္စနဲ့ ပူပန်မှု ကုက္ကုစ္စ နှစ်ခုတို့ကို ပူးပေါင်းပြီး နီဝရဏတစ်ပါးအနေနဲ့သာ မြတ်စွာဘုရား ဟောပါတယ်။

ပြာပုံထဲကို ကျောက်ခဲ ပစ်ချလိုက်တဲ့အခါ ထောင်းခနဲ ပြာတွေ လွင့်စင်ကုန်ပါတယ်။ အရပ်လေးမျက်နှာကို ပျံ့နှံ့ကုန်ပါတယ်။ အဲဒီလိုပဲ လှုပ်ရှားပျံ့လွင့်တဲ့စိတ်ကို ဥဒ္ဓစ္စလို့ ခေါ်ရပါတယ်။ ဥဒ္ဓစ္စ သဘောကို လက်ာလေးနဲ့ မှတ်ထားပါ။

*** စိတ်ပျံ့လေက မငြိမ်က ဥဒ္ဓစ္စမည်လေသည်။**

လှုပ်ရှားနေတဲ့ စိတ်၊ ပျံ့လွင့်နေတဲ့ စိတ်ဟာ အာရုံတစ်ခုကို တည်တည်တံ့တံ့မယူနိုင်ပါဘူး။ ဟို ရောက်ဒီရောက် ဟိုတွေးဒီတွေးနဲ့ မငြိမ်သက်တဲ့ အတွက် ရှုမှတ်နေတဲ့ ရုပ်နာမ်တရားကို အာရုံ မစိုက်နိုင်ပါဘူး။ ဘယ်မှာ တရားအားထုတ်လို့ ရပါ တော့မလဲ။ တရားမရနိုင်တော့ဘူးပေါ့။

## လူကတခြား စိတ်ကတခြား

ဘုန်းကြီးတို့ပရိသတ် - ဒီတရားစခန်းမှာ တရား ထိုင်ကြတယ်။ တစ်ခါတလေ လူကတခြား စိတ်က တခြားနော်။ လူက တရားစခန်းမှာ စိတ်က အိမ် မှာ။ လူက ငြိမ်ပြီး ထိုင်နေတယ်။ စိတ်က မြို့ထဲ ရောက် တောထဲရောက် တစ်နိုင်ငံလုံး အနှံ့အပြား ရောက်ဆို တရားမရတော့ဘူး။ ရပြီးသားတရားတွေ လည်း ပျောက်သွားတယ်။ သမာဓိတွေ ပျက်သွား တယ်။ မရသေးတဲ့တရား မဂ်ဖိုလ်တရားတွေကို လည်း ရဖို့ မလွယ်ဘူး။

လူတခြား စိတ်တခြားဆို စိတ်တွေ လွင့်ပျံ့နေ လို့ တရားမရနိုင်ဘူး။ စိတ်မငြိမ်လို့ ရှုနေတဲ့တရား တွေတောင် ပျောက်သွားတယ်။

အခါတစ်ပါးမှာ ဘုရားမြတ်စွာဟာ တရားနာရောက်လာတဲ့ ဒကာငါးယောက်ကို တရားဟောတော်မူပါတယ်။ မိုးကောင်းကင်က တဝေါဝေါနဲ့ မိုးသီးမိုးပေါက်တွေကျလာသလို အားနဲ့မာန်နဲ့ တရားမိုးကြီးကို ရွာသွန်းပေးတော်မူတာပါ။

ဒါပေမယ့် တရားနာနေတဲ့ ဒကာငါးယောက်ကို ကြည့်တဲ့အခါ တစ်ယောက်က ခေါင်းကြီးစိုက်ပြီး အိပ်ငိုက်နေတယ်။ တစ်ယောက်က အကြောင်းမရှိဘဲ မြေကြီးလက်နဲ့ခြစ်နေတယ်။ တစ်ယောက်က သစ်ခက်ကို လှုပ်ခါနေတယ်။ တစ်ယောက်က မိုးကောင်းကင်ကြီးကို အဓိပ္ပာယ်မရှိ မော့ပြီး ကြည့်နေတယ်။ တစ်ယောက်ကသာ သေသေချာချာ နားစိုက်ပြီး နာယူပါတယ်။

ဒကာငါးယောက် ဖြစ်နေပုံကို အရှင်အာနန္ဒာက မြင်နေပါတယ်။ တရားသာ နာပေမယ့် တရားအပေါ် စိတ်မရောက်တာကို တွေ့နေရပါတယ်။

## တစ်ယောက်သာ တရားရ

တရားပွဲပြီးတဲ့အခါမှာ အရှင်အာနန္ဒာက မြတ်စွာဘုရားကို မေးလျှောက်ပါတယ်။ ဒုက္ခခပ်သိမ်း

ငြိမ်းစေတဲ့တရား၊ ဆင်းရဲအပေါင်းကို လွှန်မြောက်စေတဲ့တရားကို မြတ်စွာဘုရားက ဝီရိယ ထားပြီး ဟောနေပါရက်နဲ့ တရားနာတဲ့ ဒကာတွေ စိတ်မပါတဲ့အကြောင်း၊ စိတ်တွေ မဝင်စားနိုင် ဖြစ်နေရတဲ့ အကြောင်းကို မေးမြန်း လျှောက်ထားပါတယ်။ မြတ်စွာဘုရားက ထိုဒကာများ တရားအပေါ် စိတ်မဝင်စားရတဲ့အကြောင်းကိုဖြေကြားတော်မူပါတယ်။

"အာနန္ဒာ- ငါဘုရား တရားချီးမြှင့်နေတဲ့အချိန်မှာ ခေါင်းငိုက်စိုက်နဲ့ အိပ်ချင်နေတဲ့သူဟာ ဘဝပေါင်းငါးရာမှာ တစ်ဆက်ထဲ မြွေဖြစ်ခဲ့ဖူးတယ်။ အအိပ်များတဲ့မြွေဘဝက လာခဲ့သူမို့ အခုလည်း အိပ်ငိုက်နေတာပါ။"

"မြေကြီးကို လက်နဲ့ ခြစ်နေတဲ့သူက တီကောင်ဘဝက လာခဲ့တာ ဖြစ်တယ်။ အလေ့အထုံက စွဲနေတော့ မြေကြီးကို လက်နဲ့ကုတ်ခြစ်တာကိုပဲ စိတ်ဝင်စားနေတယ်။"

"သစ်ခက်တွေလှုပ်ကစားနေတဲ့သူက ဘဝငါးရာလုံးလုံးမှာ မျောက်ဖြစ်ခဲ့ရတယ်။ မျောက်ဘဝကရောက်လာလို့ အငြိမ်မနေနိုင်ဘဲ ဆော့နေတာ။ ငြိမ်ငြိမ်မနေနိုင်တာပါ။"

"တစ်ချိန်လုံး မိုးကောင်းကင်ကို မော့ကြည့်နေတဲ့သူက နက္ခတ်ဆရာပါ။ ဘဝပေါင်း ငါးရာ နက္ခတ်တာရာကို ကြည့်ခဲ့တော့ အခုလည်း ဒါကိုပဲ စိတ်ကစွဲပြီး တရားအာရုံ မယူနိုင်ဘဲ မော့ကြည့်နေတာပါ။"

"အသေအချာ စိတ်ဝင်တစားနဲ့ တရားနာတဲ့သူက ဟိုးအရင်ဘဝတွေမှာလည်း ဗေဒင်သုံးပုံကို ရွတ်အံတဲ့ပုဏ္ဏား ဖြစ်ခဲ့တယ်။ စိတ်စူးစိုက်တဲ့ အလေ့အကျင့်ရှိတော့ တရားနာတဲ့အခါ စူးစူးစိုက်စိုက် နာနိုင်တယ်။"

-လို့ ရှင်းပြတော်မူပါတယ်။

ဘုန်းကြီးတို့ပရိသတ်- သတိထားကြည့်ပါ။ ဒီတရားပွဲမှာ အားလုံးကိုအတူတူ မြတ်စွာဘုရားဟောတာပါ။ တစ်နေရာထဲ တစ်ချိန်ထဲမှာ ဒကာငါးယောက်အတူတူ တရားနာကြတာပါ။ ဒါပေမယ့် စိတ် စူးစိုက်ပြီး အသေအချာ နာယူတဲ့ ဒကာတစ်ယောက်သာ တရားရပါတယ်။ သောတာပန်ဖြစ်သွားပါတယ်။ (ဓမ္မပဒ ၄)

ကျန်တဲ့ဒကာတွေဟာ စိတ်တွေ လွင့်ပျံ့နေကြလို့၊ စိတ် မငြိမ်သက်လို့ တရားမရကြပါဘူး။ ဥဒ္ဒစ္စက တရားမရအောင် တားထားတာပါ။

## ကုက္ကုစ္စဆိုသည်မှာ

ဥဒ္ဒစ္စ ကုက္ကုစ္စ နီဝရဏလို့ မြတ်စွာဘုရား ဟောရာမှာ ဥဒ္ဒစ္စနဲ့တွဲပြီး နီဝရဏတစ်ပါးလို့ ပြထားတာက ကုက္ကုစ္စတရားပါ။ ကုက္ကုစ္စဆိုတာ စိတ်ထဲမှာ စိုးရိမ်ပူပန်နေတာပါ။ စိတ်နှလုံးမသာယာ မအေးချမ်းဘဲ ပူလောင်နေတာမျိုးပါ။ လက်ာလေးလိုက်ဆိုပါ။

## * စိတ်တွင်းပူက မအေးမြ ကုက္ကုစ္စမည်လေသည်။

ဘုန်းကြီးတို့ပရိသတ် - တရားအလုပ်ကို လုပ်နေကြရင် စိတ်ကောင်းတွေ ဝင်လာတယ်။ ကုသိုလ်ကောင်းမှုကို လိုလားလာကြတယ်။ အဲဒီအချိန်မှာ ကိုယ် ပြုထားခဲ့တာတွေ ပြန်စဉ်းစားမိပြီ။ မဟုတ်တာလုပ်ခဲ့တာတွေ ပြန်တွေးပြီ။ မေ့နေတုန်းကတော့ အဟုတ်သား။ တွေးမိလိုက်တော့ မသက်သာဘူး။

ရင်တွေ ပူလာတယ်။ ကြောက်လန့်လာတယ်။ စိတ်ဆင်းရဲတယ်။ အဲဒါ ကုက္ကုစ္စရဲ့သဘောပါ။

## နောင်တပူပန်မှု

ကုက္ကုစ္စကို နောင်တတဖန် ပူပန်မှုလို့ ပြောကြတယ်နော်။ အထူးသဖြင့် မကောင်းမှု ဒုစရိုက်တွေ ကျူးလွန်ခဲ့ပြီး အပြစ်ဒဏ် ကျခံရမယ့် အချိန်မှာ နောင်တရတယ်။ ရာဇဝတ်မှုကျူးလွန်သူတွေ အချုပ်ထဲရောက်၊ ထောင်ထဲရောက်ရင် နောင်တတွေ ရကြတယ်။ ငါ လုပ်ခဲ့မိတာ မှားလေခြင်းပေါ့။

လက်တွေ့ဆိုးကျိုးဒုက္ခ ခံရချိန်မှာ ပိုသိလာပြီ။ ဒီလိုဒုက္ခတွေ့ရတာဟာ ကျူးလွန်ခဲ့တဲ့ မကောင်းမှု ဒုစရိုက်တွေကြောင့်လို့ သတိသံဝေဂရတဲ့အခါ စိတ်မချမ်းသာဘူး။ မတတ်နိုင်တော့ဘူး။ ပြင်ဆင်လို့မရတော့ဘူး။ စိတ်ရောကိုယ်ပါ ပူလောင်လာတယ်။ တစ်ကိုယ်လုံး မီးနဲ့အရှို့ခံရသလို၊ လောင်ကျွမ်းနေသလိုကို ပူနေတယ်။ အဲဒါကုက္ကုစ္စရဲ့လက်ချက်ပါ။

ကုသိုလ်ဘက်က ကြည့်ရင်လည်း ကုသိုလ်မပြုခဲ့တာတွေ တွေးပြီး နောင်တရတယ်။ ကုက္ကုစ္စတွေ

ဖြစ်တယ်။ အချိန်ရှိတုန်း မလုပ်မိတာ၊ အချိန်လွန်မှ နောင်တရတယ်။

ပစ္စည်းဥစ္စာတွေ ပြည့်စုံစဉ်၊ ကြွယ်ဝချမ်းသာစဉ်က ကုသိုလ် မလုပ်ဖြစ်ဘူး။ သောက်စားမူးရူး ဖြုန်းတီးခဲ့တယ်။ ကုသိုလ် လုပ်ချင်တဲ့အခါကျတော့ လွန်နေပြီ။ ဥစ္စာပစ္စည်းတွေ ကုန်သွားပြီ။ စားဝတ်နေရေး ကြပ်တည်းနေပြီ။ ကုသိုလ်တွေ လုပ်ချင်ပေမယ့် မလုပ်နိုင်တော့တဲ့အတွက် နောင်တရတယ်။ ပူပန်တယ်။ ကျန်းမာစဉ်က ကောင်းမှု မပြုခဲ့ဘူး။ အသက်တွေကြီးမှ မကျန်းမမာဖြစ်မှ ကုသိုလ်လိုချင်လာတယ်။ မလုပ်နိုင်တဲ့အခါ ကိုယ့်အမှား ကိုယ်ပြန်တွေးပြီး စိတ်မသက်သာဘူး။ နောင်တရလာတယ်။ နောက်ကျသွားပြီလို့ တွေးပြီး စိတ်တွေပူပန်တယ်။ ကုက္ကုစ္စဝင်လာတယ်ပေါ့။

## ဘာမှ မတတ်နိုင်

အချိန်ရှိစဉ် အချိန်မီစဉ်မှာ နောင်တ ရရင်တော့ ကောင်းပါတယ်။ မဖြစ်နိုင်တော့တာကို တွေးတွေးပြီး နောင်တရ ပူဆွေးနေတာ ကုက္ကုစ္စ ဝင်နေတာက ဘာအကျိုးမှ မရပါဘူး။

ဘုန်းကြီးတို့ပရိသတ်- နောင်တကုက္ကုစ္စက ပြု ပြီးခဲ့တဲ့ မကောင်းမှုဒုစရိုက်တွေကိုလည်း ကောင်းမှု ကုသိုလ် ဖြစ်သွားအောင် ပြောင်းလဲပစ်ဖို့ မတတ် နိုင်ပါဘူး။ နောင်တ ရလို့လည်း အကုသိုလ်က အကုသိုလ်ပါပဲ။ ကုသိုလ်ဖြစ်မလာပါဘူးနော်။

မပြုမိ မလုပ်မိတဲ့ ကုသိုလ်ကောင်းမှုတွေကို နောင်တရချိန်မှ၊ အချိန်နောက်ကျတော့မှ ပြုလို့ လုပ်လို့ မရတော့ပါဘူး။ လွန်ခဲ့ပါပြီ။ အခွင့်အရေး တွေ လက်လွတ်သွားပါပြီ။ အခုမှ ကုသိုလ်တွေကို လိုချင်ပါတယ်၊ ပြုချင်ပါတယ်ဆိုလို့လည်း ကုသိုလ် မဖြစ်တော့ပါဘူး။ ဘာမှ မတတ်နိုင်တော့ပါဘူး။

ဒါကြောင့် နောင်တဆိုတာ မဖြစ်ရအောင်၊ နောင်တမရအောင် မဖြစ်သေးတဲ့အကုသိုလ်တွေ မဖြစ်အောင်ရှောင်ရပါတယ်။ မဖြစ်သေးတဲ့ကုသိုလ် တွေ ဖြစ်အောင် ကြိုးစားရပါမယ်။ ပူပန်တဲ့ကုက္ကုစ္စ တွေ မဝင်ရောက်အောင် ကြိုတင်ပြီး ကုသိုလ်ပြု ရပါတယ်။ ရောက်လာဝင်လာရင်လည်း အမြန်ဆုံး ပယ်ဖျောက်ရပါတယ်။

နောင်တရပြီး ပူဆွေးနေမယ့်အစား ရနိုင်တဲ့ ကုသိုလ်တရားကိုရအောင် အားထုတ်ပါ။ နောင်တ

ရပြီး အချိန်ကုန်ခံမယ့်အစား လက်ရှိ အားထုတ်နေတဲ့တရား တိုးတက်အောင်သာ ဂရုစိုက်ပါ။ ကုဋ္ဋကုစ္စကို ကြိုးစားပြီး ပယ်ဖျောက်ပါ။

## အကုသိုလ်ကြောက်လို့

တစ်ခါတုန်းက တရားစခန်းတစ်ခုမှာ ဒကာကြီးတစ်ယောက် ဘုန်းကြီးကိုလာလျှောက်ပါတယ်။ တရားစစ်ချိန် ယောဂီတွေအားလုံး တရားစစ်ခံပြီးတော့မှ ညှိုးညှိုးငယ်ငယ်နဲ့ လာလျှောက်တာပါ။

"တပည့်တော်ကို တရားစခန်းက ပြန်ခွင့်ပြုပါတော့ဘုရား"

"ဘာဖြစ်လို့လဲ ဒကာကြီး၊ စခန်းမှ မပြီးသေးတာ၊ ဘာလို့ ပြန်ချင်ရတာလဲ"

"တပည့်တော် အကုသိုလ်တွေ ကြောက်လွန်းလို့ပါဘုရား၊ ဆက်ပြီး အားမထုတ်ပါရစေနဲ့၊ ကြောက်လွန်းလို့ပါဘုရား"

ဘုန်းကြီးတောင် မျက်စိလည်သွားတယ်။ အကုသိုလ်ကြောက်ရင် ဆက်အားထုတ်ရမှာ သူ့

ကျမှ အကုသိုလ်ကြောက်လို့ တရား အားမထုတ်တော့ဘူးဆိုတော့ ဘုန်းကြီးတို့ပရိသတ် တစ်မျိုးဖြစ်နေတယ်နော်။ ဒါကြောင့် ဘုန်းကြီး သူ့ကို ဆက်ပြီး မေးပါတယ်။

"ဒကာကြီး အကုသိုလ်ကိုကြောက်ရင် တရားအားထုတ်ပေါ့။ ဘာလို့ အိမ်ပြန်ရမှာလဲ။ အိမ်ပြန်ရင် အကုသိုလ်ပျောက်ရောလား"

"အရှင်ဘုရား တပည့်တော်ပွင့်ပွင့်လင်းလင်းပဲ လျှောက်ပါရစေ။ တပည့်တော်ဟာ မကောင်းမှုဆိုတာ အားလုံးနီးပါး လုပ်ခဲ့ပါတယ်ဘုရား။ အခု တရားအားထုတ်တော့ အဲဒါတွေပဲ ပြန်ပြန် မြင်ပါတယ်။ မကောင်းမှုတွေတော့ ငါ့နောက် လိုက်လာပြီ။ ငါ ပြန်ခံရတော့မယ်။ ငါခံရတော့မယ်လို့တွေးပြီး စိတ်မချမ်းသာဘူးဘုရား။ တစ်ချက်မှ ရှုလို့လည်း မရတော့ ပြန်ပါရစေဘုရား"

သူ့ကို စိတ်သက်သာအောင် မပြောရင် တကယ်ပြန်မယ့်ပုံပဲ။ ဘုန်းကြီးက အကုသိုလ်တွေ အများကြီး ပြုထားပေမယ့် ကြိုးစားအားထုတ်လို့ တရားရ

သွားတဲ့ မိလကသာမဏေကြီးအကြောင်း ပြောပြ လိုက်တယ်။

ပြီးတာတွေ ပြန်မတွေးဖို့၊ အရှူခံ ရုပ်နာမ်ကို သာ ကြိုးစားရှုကြည့်ဖို့ ပြောလိုက်တယ်။ တစ်ရက် နှစ်ရက်ကြာတော့ အဲဒီကာကြီး တစ်ခါ လာ လျှောက်တယ်။ "ပူလောင်မှုတွေ ငြိမ်းသွားပါပြီ။ စိတ်တွေ ငြိမ်သွားပါပြီ"တဲ့။

ပျံ့လွင့်မှုနဲ့ ပူပန်မှုဆိုတဲ့ ဥဒ္ဓစ္စ ကုက္ကုစ္စတွေ ဝင်လာရင် တရားတွေ ပြေးကုန်ပါတယ်။ ရှုမှတ် လို့ မရ၊ အားထုတ်လို့ မရ ဖြစ်လာတယ်။ ဈာန် မဂ်ဖိုလ်တရားတွေ ရဖို့အရေး အဝေးကြီး ဝေးသွား တယ်နော်။

## စာမေ့တဲ့အကြောင်း

စာမေ့တဲ့အကြောင်း သိချင်လို့ လာရောက် လျှောက်ထားတဲ့ သင်္ဂါရဝပုဏ္ဏားကြီးကို မြတ်စွာ ဘုရားက -

**"သင်္ဂါရဝပုဏ္ဏား- ဥဒ္ဓစ္စကုက္ကုစ္စ တရား တွေသင့်စိတ်ထဲမှာဖြစ်ပေါ်လာရင်သင်ကျက်**

**မှတ်ထားတဲ့ စာတွေဟာ နှုတ်ကတတွတ်တွတ် ရွတ်နေပေမယ့်၊ နေ့စဉ် နေ့တိုင်း ရွတ်အံ သရဇ္ဈာယ်နေပေမယ့် မေ့ ပျောက် သွား ကုန် လိမ့်မယ်။ ဥဒ္ဓစ္စကုက္ကုစ္စတွေ ဝင်လာရင် ဘယ် လောက်ကျက်ကျက် မရတော့ဘူး။ အကျိုးရှိ-မရှိတောင် မသိတော့ဘူး။ အဲဒီ ဥဒ္ဓစ္စကုက္ကုစ္စ တရားတွေ ကင်းနေချိန်မှာ ကျက်မှတ်ပါ။ အလွယ်လေးနဲ့ ရပါလိမ့်မယ်။ ရပြီးသားတွေ လည်း မမေ့ပျောက်တော့ဘူး"**

-လို့ ရှင်းလင်းဖြေကြားပါတယ်။

ဘုန်းကြီးတို့ ပရိသတ်- စာတွေ မေ့ရတဲ့ အကြောင်းတွေထဲက တစ်ချက်က ဥဒ္ဓစ္စကုက္ကုစ္စတို့ ရဲ့ နှိပ်စက်မှုကြောင့်ပါ။

တရားအားထုတ်သူများ တရား မရကြတဲ့ အကြောင်းတစ်ချက်ဆိုရင်လည်း မမှားပါဘူး။ စိတ် တွေ ပျံ့လွင့်နေ၊ ပူပန်နေတော့ အရှုဉာဏ် မပေါ် တော့ဘူး။ ရှုစိတ်တွေ ဟိုဒီရောက်ကုန်ပြီ။ ရုပ် နာမ် ဓမ္မတွေကို မရှုနိုင်တော့ တရားလည်း မရနိုင်တော့ ဘူး။ မဂ်ဉာဏ်ဖိုလ်ဉာဏ်လည်း မပေါ်တော့ဘူး ပေါ့။

# ဥဒ္ဒစ္စကုက္ကုစ္စ ပယ်နိုင်ရန်

ဘုန်းကြီးတို့ပရိသတ်- ဥဒ္ဒစ္စကုက္ကုစ္စ နီဝရဏ ဟာ ပယ်ရမယ့်တရားပါ။ ပယ်နိုင်ဖို့အတွက် လိုအပ်ချက်တွေကို သိထားရပါမယ်။

၁။ အကြားအမြင် ဗဟုသုတ ဆည်းပူးပါ။
၂။ သင့် မသင့် အဖန်ဖန် ဆွေးနွေးပါ။
၃။ ဝိနည်းတွေ သိက္ခာပုဒ်တွေကို သိထားပါ။
၄။ ကြီးသောပုဂ္ဂိုလ်တို့ကို ပေါင်းသင်းပါ။
၅။ မိတ်ဆွေကောင်းကို ပေါင်းသင်းပါ။
၆။ အပ်-မအပ်သော ဝိနည်းနဲ့ စပ်တဲ့ စကားကို ပြောပါ။

နောင်တ ပူပန်မှု မဖြစ်ရန်အတွက် ကုသိုလ်အကုသိုလ်တို့ကို နားလည်ရပါမယ်။ လုပ်သင့် မလုပ်သင့် ဆွေးနွေးမေးမြန်းထားရပါတယ်။ ဆောင်ရန်ကိစ္စ၊ ရှောင်ရန်ကိစ္စများကို သတိပေးသူ တားမြစ်သူတို့ကို ပေါင်းသင်းထားရပါတယ်။ ဒါမှသာ စိတ်တွေ ပျံ့လွင့်စဉ်းစားနေတဲ့ ဥဒ္ဒစ္စ၊ နောင်တရပူဆွေးတဲ့ ကုက္ကုစ္စတရားတွေက လွတ်ကင်းပါမယ်။

# စိတ်ကို ထိန်းသိမ်း

ပျံ့လွင့်မှု ဥဒ္ဓစ္စနဲ့ ပူလောင်မှု ကုက္ကုစ္စတွေဟာ ရှုမှတ်စိတ်ကို မထိန်းသိမ်းရင် ဖြစ်လာတတ်ပါတယ်။ သတိထားပြီး ရှုပွားနေရင် မဝင်နိုင်ပါဘူး။ ဟိုရောက် ဒီရောက် အတွေးတွေ ရောက်တယ်။ တောင်တောင် မြောက်မြောက် ကြံစည်တယ်ဆိုတာ အရှုအမှတ် လွတ်လို့ ဖြစ်ရတာပါ။

တရားအားထုတ်ကာစ လူတိုင်းလိုလို ဖြစ်တတ်ပါတယ်။ တရားအာရုံပေါ်မှာ အသားမကျ၊ ကမ္မဋ္ဌာန်းက မကျွမ်းကျင်သေးတော့ အနည်းနဲ့ အများ စိတ်တွေ လွင့်ပျံ့ပါတယ်။

ပြီးပြီးသား ဖြစ်ပြီးသားကိစ္စတွေကို ပြန်တွေးလို့ ကုက္ကုစ္စ ဝင်တာပါ။ ပြုပြီးတဲ့ဒုစရိုက်၊ မပြုလိုက်ရတဲ့ သုစရိုက်တွေအကြောင်း ပြန်တွေးတယ်။ ကုန်လွန်ခဲ့တဲ့ အချိန်ကာလက ပြု၊ ပြော၊ ကြံခဲ့တာတွေကို ပြန်တွေးတယ်။ ပြန်စဉ်းစားတယ်။ အဲဒီက တစ်ဆင့် မှားခဲ့တာတွေ သတိပြန်ရပြီး ကိုယ့်အမှား ကိုယ်ပြန်မြင်ပြီဆိုတော့ ကုက္ကုစ္စဝင်ပြီပေါ့။

စိတ်ကို ထိန်းသိမ်းပြီး အတိတ်အကြောင်းလည်း တတ်နိုင်သမျှ မတွေးဘဲနေမယ်။ အနာဂတ်အရေးလည်း လှမ်းမတွက်ဘူး။ ပစ္စုပ္ပန်ကျကျ ယခုအချိန်မှာ ဖြစ်နေတဲ့ ရုပ်နာမ်-မှုတွေကို ပေါ်လာသမျှ မလွတ်စေဘဲ ရုပ်တရားကို ရုပ်၊ နာမ်တရားကို နာမ်လို့ ရှုနေရင် စိတ်တွေ မပျံ့တော့ပါဘူး။ စိတ်ထဲမှာ ပူပန်စရာလည်း မရှိတော့ပါဘူး။

တတ်နိုင်သမျှ မိမိရဲ့စိတ်ကို ထိန်းသိမ်းပြီး စိတ်အေးအေးထားပြီး ရှုပါ။ ဒီနီဝရဏ ကင်းပါတယ်။ ဖြစ်ပြီးတာ၊ မဖြစ်သေးတာတွေကို မတွေးမကြံပါနဲ့။ ရုပ်နာမ်တရားကို ပေါ်ခိုက်မှာ မှန်မှန်ရှုပါ။ ဒါဆိုရင် ဘုန်းကြီးတို့ပရိသတ်မှာ ဥဒ္ဒစ္စကုက္ကုစ္စတွေ တစ်စတစ်စနဲ့ ကင်းစင်သွားပါမယ်။

## လှိုင်းထလှုပ်ရှားနေ

တရားထူးတရားမြတ်တွေကို တားဆီးတတ်တဲ့ ဥဒ္ဒစ္စကုက္ကုစ္စဟာ ဥပမာပေးရရင် အလံတိုင်ထိပ်က အလံတံခွန်လိုပါပဲ။ တဖျတ်ဖျတ်နဲ့ လှုပ်ရှားနေပါတယ်။ မငြိမ်မသက် ဖြစ်နေပါတယ်။ ဒါကြောင့် မြတ်စွာဘုရားက သင်္ဂါရဝပုဏ္ဏားကြီးကို -

**“သင်္ဂါရဝပုဏ္ဏား- တည်ငြိမ်သန့်ရှင်းနေတဲ့ ရေခွက်ထဲကို ငုံ့ကြည့်ရင် မျက်နှာရိပ်ကို မြင်ရတယ်။ လှုပ်ရှားနေ လှိုင်းထနေတဲ့ ရေခွက်ထဲမှာတော့ မျက်နှာရိပ် မထင်ပါဘူး။**

**အဲဒီလိုပါပဲ၊ ဥဒ္ဓစ္စကုက္ကုစ္စ ကင်းနေရင် သင့်စာတွေ ဉာဏ်မှာ ထင်ပါတယ်။ ဥဒ္ဓစ္စကုက္ကုစ္စ ဝင်လာရင်တော့ စိတ်တွေ မငြိမ်မသက်ဖြစ်နေလို့ စာတွေ ပျောက်ကွယ်ကုန်ပါတယ်။”**

- လို့ ဥပမာပေး ဟောကြားတော်မူပါတယ်။

## * လှိုင်းထလှုပ်ရှား ရေခွက်အလား ထင်ရှားမမြင်ပြီ။

ဘုန်းကြီးတို့ပရိသတ်- ရေခွက်ထဲမှာ ရေထည့်ထားတယ်။ ရေကလည်း အမှိုက်သရိုက် ကင်းပြီး ကြည်လင်တယ်။ သန့်စင်တယ်။ ဒါပေမယ့် ပြင်ပက လေတိုက်လို့ဖြစ်စေ၊ တမင်တကာ ခွက်ကိုလှုပ်လိုက်လို့ ဖြစ်စေ၊ ရေတွေ လှိုင်းထသွားတယ်။ ဘောင်

ဘင်ခတ်သွားတယ်ဆိုရင် ငုံ့ကြည့်သူရဲ့ အရိပ် ရေမှာ မထင်ရှားတော့ဘူး။ အရိပ် မမြင်တော့ဘူးပေါ့။

စိတ်တွေ လှုပ်ရှားနေလို့ စာတွေ မမြင်တော့ဘူး။ တရားတွေ မထင်ရှားတော့ဘူး။

## စိတ်အေးအေးထား

"စိတ်အေးအေးထားပါ"လို့ လူတွေ အတော်များများ ပြောကြတယ်နော်။ စိတ်အေးအေးထားပါတဲ့။ သိပ်ကောင်းတဲ့ စကားပါ။ အတွေးတွေ ကယောက်ကယက်ဖြစ်နေရင်လည်း စိတ်မအေးဘူး။ပြာလောင်ခတ်နေတယ်။နောင်တတွေတစ်လှေကြီးနဲ့ ပူပန်နေတယ်။ စိတ်မအေးဘူး။ ပူနေတယ်။

စိတ်အေးချမ်းကြည်လင်မှုဟာ အောင်မြင်မှုအတွက် အရေးကြီးတဲ့အချက်ပါ။ စိတ်တွေလှိုင်းထသလို လှုပ်ရှားနေတဲ့အခါ ဘယ်အရာကိုမှ ပြီးစီးအောင်မြင်အောင် မဆောင်ရွက်နိုင်တော့ဘူး။ စိတ်ထဲမှာ အပူလှိုင်းတွေ ဖြတ်နေတဲ့အခါ ဘယ်လိုနေနေ အေးချမ်းမှု မရှိတော့ဘူး။

စာကျက်မယ်ဆိုရင်လည်း ကျက်လို့ မှတ်လို့ မရတော့ဘူး။ ကြည့်သာကြည့်နေတယ်။ ကျက်သာ ကျက်နေတယ်။ ဘာမှ မမှတ်မိဘူး။ တရားအား ထုတ်ရင်လည်း ဒီအတိုင်းပါပဲ။ လူကသာ ဓမ္မရုံထဲ အများနဲ့နေတယ်။ စိတ်က တစ်နေရာပြီးတစ်နေရာ ရောက်နေတယ်။ အကုသိုလ်တွေ တွေးပြီးပူတယ်။ ကုသိုလ်တွေ မလုပ်ဖြစ်ခဲ့တာ တွေးပူတယ်။ အေး ဆေးတည်ငြိမ်မှု မရှိတော့ တရားမရဘူး။

စိတ်နဲ့လုပ်ရတဲ့ အလုပ်မှန်သမျှမှာ စိတ်အေး အေးထားနိုင်ဖို့ လိုပါတယ်။ စိတ်အေးအေးထား တတ်ဖို့ လိုပါတယ်။ တည်ငြိမ်အေးချမ်းတဲ့စိတ်က သာ ကောင်းမြတ်တဲ့အောင်မြင်မှုကို ပေးတယ်လို့ ဘုန်းကြီးတို့ပရိသတ် မှတ်ထားပေါ့နော်။

## အံ့ဖွယ်အရှင်မြတ်များ

အောင်မြင်မှုရတယ်လို့ ပြောကြရာမှာ ပြင်ပ ရန်သူတွေကို အောင်မြင်တာ၊ အောင်နိုင်တာဟာ အံ့သြစရာ မကောင်းပါဘူး။ ပြေးလွှားနေတဲ့ပျံ့လွင့် လှုပ်ရှားချင်နေတဲ့ စိတ်ကို ထိန်းချုပ်နိုင်၊ ကြိုးကိုင်

နိုင်တာကမှ အံ့သြစရာ ကောင်းတာပါ။ အဲဒီလို အံ့သြစရာကောင်းတဲ့ အရှင်မြတ်သုံးပါး ရှိခဲ့ဖူးပါတယ်။ တရားကျင့်ကြတဲ့ အရှင်မြတ်တွေပါ။

တောကျောင်းမှာ ဝါဆိုဝါကပ် သီတင်းသုံးကြမယ်။ ကျင့်ကြံအားထုတ်ကြမယ်ဆိုတော့ ဝါဆိုမယ့်နေ့မှာ မထေရ်ကြီးက အမိန့်ရှိပါတယ်။

"ငါ့ရှင်တို့. . . ဒို့များ ဒီဝါတွင်းသုံးလပတ်လုံး စိတ်ကိုထိန်းသိမ်းကြမယ်ပျံ့လွင့်မှု မရှိအောင် စောင့်ထိန်းကြရမယ်"

-လို့ အမိန့်ရှိပါတယ်။

တစ်ဝါတွင်းလုံး ကြိုးကြိုးစားစား အားထုတ်ကြလို့ သီတင်းကျွတ်လပြည့် ပဝါရဏာနေ့ ရောက် တော့ မထေရ်ကြီးက အငယ်ဆုံး မထေရ်ကို မေး မြန်းပါတယ်။

"ငါ့ရှင် ဝါကျွတ်ခဲ့ပြီ။ ဝါတွင်းသုံးလမှာ ငါ့ရှင် ဘယ်လောက် ကြိုးစားအားထုတ်တယ် ဆိုတာ ဒို့များ ကြည်ညိုရအောင် ပြောပါအုံး။ ဝါတွင်း သုံးလအတွင်းမှာ ငါ့ရှင်ရဲ့ စိတ်ကို ဘယ်လောက်ဝေးဝေးထွက်ခွင့်ပေးခဲ့ပါသလဲ။"

"အရှင်ဘုရား- တပည့်တော်ရဲ့စိတ်ကို ဒီကျောင်းဝင်းအပြင်ဘက်ကိုတောင် ထွက်ခွင့် မပေးဘဲ နေခဲ့ပါတယ်ဘုရား"

မထေရ်ငယ်စကားကို ကြားပြီးတဲ့အခါ မထေရ်ကြီးဟာ မထေရ်လတ်ကို မေးပြန်ပါတယ်။

မထေရ်လတ်က-

"အရှင်ဘုရား- တပည့်တော်ရဲ့ စိတ်ကို တပည့်တော်နေတဲ့ ကမ္မဋ္ဌာန်းကျောင်းလေးရဲ့ အပြင်ကိုတောင် ထွက်ခွင့် မပေးပါဘုရား။ ကမ္မဋ္ဌာန်းကျောင်း အပြင်ကိုတောင် မသွားမရောက်အောင် တပည့်တော် စောင့်ထိန်းခဲ့ပါတယ်။"

## ခန္ဓာပြင်ဘက် စိတ်မထွက်

အရှင်မြတ်နှစ်ပါးက အသီးသီးလျှောက်ထားပြီးတဲ့အခါ မထေရ်ကြီးကို ပြန်လည် မေးမြန်းလျှောက်ထားကြပါတယ်။

"အရှင်ဘုရားကောဘုရား၊ စိတ်ကို ဘယ်လောက်ဝေးဝေး ထွက်ခွင့်ပေးခဲ့တယ်ဆိုတာ တပည့်တော်တို့ သိပါရစေဘုရား"

"ငါ့ရှင်တို့ တပည့်တော်ဟာ ဒီဝါတွင်း သုံးလပတ်လုံးမှာတပည့်တော်ရဲ့စိတ်ကိုဒီ ရုပ်နာမ်ခန္ဓာကိုယ်ရဲ့ အပြင်ဘက်ကို လုံးဝ ထွက်ခွင့်မပေးခဲ့ပါဘူး။ ဝိပဿနာရဲ့အာရုံ ရုပ် နာမ် ခန္ဓာ အတွင်းမှာသာ စိတ်ကို ထားခဲ့ပါ တယ်။" -လို့ ဖြေကြားခဲ့ပါတယ်။

ခန္ဓာအပြင်ဘက်ကို စိတ်လုံးဝမရောက်အောင် ထိန်းခဲ့ပါတယ်တဲ့-နော်။

ဘုန်းကြီးတို့ပရိသတ်လည်း ကြိုးစားရှုမှတ်ရင် ရပါတယ်။ ဒီတရားစခန်း မပြီးမချင်း ငါ့စိတ် ဘယ် ကိုမှ မရောက်စေရဘူး။ ဘာမှ စဉ်းစားမနေဘူး။ တရားအလုပ်၊ တရားအာရုံက လွဲလို့ ဘာကိုမှ အာရုံမပြုဘူးလို့ ဆုံးဖြတ်ချက်ချပြီး ဥဒ္ဒိစ္စတရားကို စိန်ခေါ်လိုက်ပါ။

စိတ်တွေ တဖြည်းဖြည်းနဲ့ ငြိမ်သက်လာပါ မယ်။ အရှုခံ ရုပ်နာမ်မှာ စွဲမြဲသွားရင် သွားပါလို့ မောင်းထုတ်တောင် စိတ်က မသွားတော့ဘူး။ တရားအရသာကိုသိသွားရင် တစ်စက်မှအရှုအမှတ် ကို အပျက်မခံချင်တော့ပါဘူး။ ကြိုးစားရှုမှတ်တဲ့ အတွက် မကြာခင်မှာပဲ မဂ်ဖိုလ်တရားတွေကို ရ လာနိုင်ပါတယ်။

❖ ❖ ❖

# ဝိစိကိစ္ဆာနီဝရဏ

## ဝိစိကိစ္ဆာနီဝရဏ

ဘုန်းကြီး အခုဟောပြီးခဲ့တာတွေ ပြန်ကြည့်ရင် နီဝရဏလေးပါး ပြီးသွားပါပြီ။ ပရိသတ်လည်း တရားမရခြင်းရဲ့အကြောင်းရင်း ငါးမျိုးထဲက လေးမျိုးလေးပါးကို သိသွားကြပြီဆိုတော့ နောက်ဆုံး နီဝရဏကို သွားကြရအောင်။ ဝိစိကိစ္ဆာနီဝရဏတဲ့။ သံသယဝင်လာတာ။ ပိုင်ပိုင်နိုင်နိုင် မဆုံးဖြတ်နိုင်လို့ စိတ်နှစ်ခွ ဖြစ်နေတာဟာ ဝိစိကိစ္ဆာနီဝရဏပါ။ ဆိုကြည့်ရအောင်။

### * ယုံမှားသံသယ စိတ်နှစ်ခွ ဝိစိကိစ္ဆမည်။

ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးနဲ့ ပတ်သက်ပြီး စိတ်ထဲမှာ မရှင်းလင်းဘူး။ ကိုးကွယ်ရာအစစ် ယုံကြည်ရာအစစ်လို့ တစ်ထစ်ချ မဆုံး

ဖြတ်နိုင်ဘူး။ မသေမချာ ဖြစ်နေတယ်။ ယုံတစ်ဝက် မယုံတစ်ဝက် စိတ်တထင့်ထင့်ဖြစ်တာဟာ ဝိစိကိစ္ဆာပါ။

နောက်တစ်မျိုးက ခန္ဓာ အာယတန ဓာတ် ပဋိစ္စသမုပ္ပါဒ်တရားတွေမှာယုံမှားသံသယဝင်တယ်။ ဝေ့လည်လည်နဲ့ သိသလို မသိသလို ဖြစ်နေတာ ဟာ ဝိစိကိစ္ဆာ။ ကိုယ်ပိုင်ဉာဏ်နဲ့ အတိအကျသိတာ မျိုး မဟုတ်ဘဲ မသေမချာ ဖြစ်နေတာဟာ ဝိစိကိစ္ဆာပါ။

အဲဒီလို ယုံမှားသံသယဖြစ်နေတာ၊ စိတ်နှလုံး နှစ်ခွဖြစ်နေတဲ့ရောဂါဟာ အကုရခက်လို့ ဝိစိကိစ္ဆာ လို့ခေါ်ပါတယ်။ ဉာဏ်ပညာဆိုတဲ့ဆေးနဲ့ ကုမှသာ လျှင် ပျောက်ကင်းနိုင်တဲ့သဘော ရှိပါတယ်။

## မဆုံးဖြတ်နိုင်ကြ

ဘုန်းကြီးတို့ပရိသတ်မှာ ဆုံးဖြတ်ချက် ချဖို့ ခက်နေတယ်။ တရားအားထုတ်တာတောင် ဟို နည်းနဲ့ အားထုတ်ရကောင်းမလား၊ ဒီနည်းကပဲ ပို ကောင်းနေသလား။ စဉ်းစားပြီး တွေဝေနေတယ်။ တရားအလုပ် မလုပ်ဖြစ်ဘူး။

ဟိုရိပ်သာနဲ့ ဒီရိပ်သာ ရွေးနေတယ်။ ဟိုဆရာနဲ့ ဒီဆရာကြား ဗျာများနေတယ်။ ဟုတ်သလိုလိုနဲ့ ယောင်နေတယ်နော်။ ဝေခွဲလို့ မရကြဘူး။

ထိုင်အားထုတ်ရ ကောင်းနိုးနိုး၊ စင်္ကြံသွားရ ကောင်းနိုးနိုး၊ ထိုင်လိုက် ထလိုက် ဂနာမငြိမ်ဘူး။ တည်တည်ငြိမ်ငြိမ် မရှိဘူး။

တစ်လမ်းထဲ သွားမယ်။ ရေဆုံးရေဖျား အားထုတ်လိုက်မယ်လို့ တစ်ထစ်ချ သတ်မှတ်တာ သူ့မှာ မရှိဘူး။ အဲဒီဟာ ဝိစိကိစ္ဆာလက်ချက်နော်။ ဟိုးရှေးက ပြောခဲ့တဲ့ ဘုရား၊ တရားအပေါ် သံသယဝင်တာမျိုး မဟုတ်ပေမယ့်၊ ဝိစိကိစ္ဆာအစစ် မဟုတ်ပေမယ့် သဘောချင်းတူတဲ့ အတုအယောင်၊ ဝိစိကိစ္ဆာအတုပေါ့။

ဘုန်းကြီးတို့ တရားပြတဲ့အခါ တတ်နိုင်သလောက် အသေအချာ ရှင်းပြတယ်။ ရုပ်တရားနဲ့ နာမ်တရား ကြိုက်ရာရှုနိုင်တယ်လို့။ ဒါတောင်တချို့က “ရုပ်ကို ရှုရမလား၊ နာမ်ကို ရှုရမလား” စိတ်နှစ်ခွ ဖြစ်နေတယ်။ “ရုပ်တစ်လှည့်၊ နာမ်တစ်လှည့်

မှတ်ရမလား”လို့ မဆုံးဖြတ်နိုင်ဘဲ ဝေ့လည်လည် ဖြစ်နေတယ်။ တစ်ခုမှ မရှုဖြစ်ဖူး၊ မရှုမှတ်ဖူးဆိုရင် တရားမရနိုင်ပါဘူး။

## စာတွေ မေ့တဲ့အကြောင်း

“သင်္ဂါရဝပုဏ္ဏားကြီးမှာ စာတွေ ကျက်နေရဲ့သားနဲ့ ရွတ်နေရဲ့သားနဲ့ကို မေ့မေ့သွားတာ . . ၊ သဘောမပေါက်ဘူး။ တစ်ခါ တစ်ခါ ပစ်ထားတဲ့စာတွေ ခေါင်းထဲ ပြန်ပြန်ဝင်လာတယ်။ ဘယ်လိုဖြစ်နေမှန်း မသိလို့ မြတ်စွာဘုရားကို လာမေးတယ်။ ပြဿနာတွေ ရှင်းသွားအောင် မြတ်စွာဘုရားကို လာပြီးလျှောက်ထားတော့ မြတ်စွာဘုရားက ဖြေကြားတော်မူပါတယ်။

**“သင်္ဂါရဝပုဏ္ဏား- ဝိစိကိစ္ဆာတရားတွေ သင့်ရဲ့စိတ်ကို ဝင်ရောက်ပြီး နှောင့်ယှက်တဲ့ အခါနှစ်ပေါင်းများစွာသင်ရွတ်အံသရဇ္ဈာယ် ထားတဲ့ စာတွေ မေ့ပျောက်ကုန်တယ်။**

**ဝိစိကိစ္ဆာတရားတွေ ကင်းရှင်းနေတဲ့ အချိန်မှာ မကျက်မမှတ်ဘဲ ပစ်ထားပေမယ့်**

**မှတ်ဉာဏ်ထဲမှာ စာတွေကပျောက်မသွားဘူး။ မေ့မသွားဘူး။ ကျက်နေတဲ့စာ၊ ရွတ်နေတဲ့စာ ဆို ဘယ်မှာ မေ့ပျောက်တော့မှာလဲ။”**

စာကျက်နေတဲ့အချိန်မှာ စိတ်မဖြောင့်ရင် စာမရဘူး။ ပါးစပ်က ရှေ့ဆက်ဆိုနေတယ်။ နောက်ပိုင်းကိုလည်း ပြန်စဉ်းစားနေရတယ်။ ရှေ့ရောက်နောက်ရောက်နဲ့ ရောကုန်ရော။ ဆိုရင်းဆိုရင်း လျှာခလုတ်တိုက်ပြီး မေ့ကုန်ရော။ အစတောင် ပျောက်သွားတယ်။ မေ့သွားလိုက်တာ စဉ်းစားလို့ကို မရတော့ဘူး။

စာကျက်ရင်တောင် မှန်မှန်လေး ကျက်သွားမှ ရပါတယ်။ သိပ်လောကြီးပြီး ရချင်လွန်းရင် မရတော့ဘူး။ သိပ်နှေးလွန်းပြန်တော့ စိတ်မဝင်စားတော့ဘူး။ စာတစ်ပုဒ်ကို ကျက်မယ်ဆိုရင် အနက်အဓိပ္ပာယ်ကို အရင်ကြည့်၊ နားလည်အောင် စဉ်းစားပြီးမှ တစ်ဝါကျချင်း တစ်ပိုဒ်ချင်း ကျက်သွားလိုက်ရင် ခဏလေးနဲ့ ရသွားတယ်။

စိတ်ထဲ မရှင်းမရှင်းနဲ့ ရသလို မရသလို၊ ကျက်ချင်သလို မကျက်ချင်သလို ဖြစ်နေတဲ့အခါ ကျက်လို့ မရဘူး။ စာမရတော့ဘူး။

# တစ်လမ်းထဲ ဖြောင့်ဖြောင့်သွား

တရားအားထုတ်ရင်လည်း ဒီအတိုင်းပဲ။ ရှုပ်ရှုပ်ချုံချုံ ပေါ့။ တစ်လမ်းထဲသွားပြီး ရှုရမယ်။ "ဒီတရားကို ရအောင် ငါအားထုတ်မယ်။ မဖြစ်မနေ ရအောင်ကို လုပ်မယ်"လို့ တန်းတန်းမတ်မတ် သွားမှ ရမှာနော်။

ဟိုဘက်က လှည့်စမ်းကြည့်လိုက်, ဒီဘက်က လှည့်စမ်းကြည့်လိုက်၊ နောက်ဆုတ်လိုက်, ရှေ့တိုးလိုက်ဆိုရင် ပြင်ဆင်နေတာ၊ စမ်းသပ်နေတာနဲ့ အချိန်ကုန်သွားတယ်။

သတိပဋ္ဌာန်လေးပါးထဲက ဘယ်သတိပဋ္ဌာန်နဲ့ မဆို အားထုတ်ရင် တရားရပါတယ်။ တစ်နည်းနည်းနဲ့ အားထုတ်ရင် ရပါတယ်။ ဟိုလိုလိုဒီလိုလိုနဲ့ဆို အချိန်ကုန်တာပဲ အဖတ်တင်မယ်။ တရားမရဘူး။

မြတ်စွာဘုရား ဟောကြားတဲ့ လမ်းစဉ်နဲ့ ကိုက်ညီလို့ လမ်းမှန် တွေ့ပြီဆိုရင် တွေဝေမနေနဲ့။ တစ်လမ်းထဲ တွန်းပြီးတော့ သွားလိုက်။ လမ်းဆုံး

ရင် ရှာတွေ့မယ်ပေါ့။ နည်းစနစ်လည်း မှန်မယ်။ ကြိုးစားပြီးတော့လည်း အားထုတ်မယ်ဆိုရင် တရားတွေ့ကို တွေ့ပါမယ်။

## လမ်းမှားရောက်အောင် တွန်း

ယုံမှားသံသယ ဝိစိကိစ္ဆာက လမ်းမှားကို တွန်းပို့တတ်တာကိုလည်း သတိထားပါ။ အမှားအမှန်ကို အသေအချာ မဆုံးဖြတ်နိုင်တော့ ဝိစိကိစ္ဆာဝင်လာရင် အမှားကို အမှန်ထင်၊ အမှန်ကိုလည်း အမှား ထင်ပါတယ်။ ထင်ရုံတင်မက လမ်းမှားကို လိုက်သွားမိရင်တော့ ဒုက္ခရောက်ပြီပေါ့။

ရှေးက ဂင်္ဂါမြစ်ဝှမ်းဒေသမှာနေတဲ့ မဟာဝါဒကာလဆိုတဲ့ ဒကာကြီးတစ်ယောက် ရှိခဲ့ပါတယ်။ တရားဓမ္မကို စိတ်ဝင်စားတယ်။ အားထုတ်ချင်တယ်။ ဒါပေမယ့် သူ့ခမျာ စနစ်တကျ ပြပေးမယ့် ဆရာ မရှိရှာဘူး။ ကြားဖူးနားဝနဲ့ပဲ အားထုတ်နေရတယ်။

၃၂-ကောဋ္ဌာသကမ္မဋ္ဌာန်းကို စီးဖြန်းရမယ်လို့ ကြားဖူးတော့ သောတာပန်ဖြစ်အောင် အနှစ် သုံး

ဆယ်လုံးလုံး ရွတ်ဖတ်သရဇ္ဈာယ်တယ်။ ဘုန်းကြီးတို့ ပရိသတ် မဂ်ဖိုလ်တရားကို ရွတ်ဆိုနေရုံနဲ့ ရတာ မဟုတ်ဘူးနော်။ ရှုပွားအားထုတ်မှ ရတာ။

မဟာဝါဒကာလခမျာ အနှစ်သုံးဆယ်တောင် ရွတ်နေတာ ဘာမှ ဖြစ်မလာဘူး။ ဒီတော့ သံသယ ဝင်လာပြီ။ "မြတ်စွာဘုရားရဲ့ တရားတော်ဟာ ဝဋ်ဆင်းရဲက လွတ်စေတယ်ဆိုတာ ဟုတ်ပုံမရပါဘူး။ ဒီလောက်ရွတ်ဖတ်နေတာတောင် မရရင် ရတော့မှာလည်း မဟုတ်ဘူး။ အလကား ပင်ပန်းတာပဲ"လို့ ယုံမှားသံသယ ဝိစိကိစ္ဆာဖြစ်ရာကနေ အယူမှားသွားတယ်။ လမ်းလွဲသွားတယ်။

## မိစ္ဆာဒိဋ္ဌိဖြစ်သွား

နောက်ဆုံးတော့ အယူမှားမိစ္ဆာကို မပယ်စွန့်နိုင်ဘဲ မဟာဝါဒကာလ ဒကာကြီး သေတဲ့အခါ မိကျောင်း ဖြစ်သွားပါတယ်။ ကျင့်ပေမယ့် အကျိုးမမြင်တော့ "အကျိုး မရှိဘူး။ တရားအလုပ်က အပို အလုပ်"လို့ တွေးပြီး အယူမှားသွားတာနော်။ သူ ကျင့်တဲ့အကျင့် မှန်မမှန် မသိတဲ့အတွက်၊ မဝေခွဲနိုင်တဲ့အတွက် အမှားဘက် ပါသွားတာပါ။

မိစ္ဆာအယူအစွဲနဲ့ သေတဲ့အခါ ဂင်္ဂါမြစ်ထဲမှာပဲ အင်မတန်ကြီးတဲ့ မိကျောင်းကြီး ဖြစ်ရရှာပါတယ်။ ကျင့်တုန်းကတော့ တရားရမလားလို့ ကျင့်တာပါ။ ဝိစိကိစ္ဆာကြောင့် တရားမရဘဲ မိစ္ဆာဒိဋ္ဌိဖြစ်ပြီး ဒုက္ခရောက်သွားရပါတယ်။ ကြောက်စရာ ကောင်းတဲ့ ဝိစိကိစ္ဆာပါ။

ဝိစိကိစ္ဆာဝင်ရင် စစ်မှန်တဲ့ တရားကိုလည်း တရားတုထင်တတ်ပါတယ်။ အစစ်အမှန် မြတ်စွာဘုရားကိုလည်း ဘုရားတုလို့ ယူဆတတ်ပါတယ်။

မှားယွင်းနေတဲ့ တရားကိုလည်း တရားစစ်တရားမှန် ယူဆပြန်ပါတယ်။ အတုအယောင် လိမ်ညာနေတဲ့ ဆရာသမားကိုလည်း တကယ့်အစစ်အမှန် ရဟန္တာကြီးလို့ အထင်မှားကြပြန်ပါတယ်။ ဆရာ လွဲမှားလို့ အကျင့်မှားသွားလို့ မဂ်ဖိုလ်နဲ့ ဝေးရပြန်ပါတယ်။

ဝိစိကိစ္ဆာကြောင့် သံသယဖြစ်တာကိုပဲ ပညာရှိယောင်ယောင်၊ ဝေဖန်စိစစ်တတ်သူ ယောင်ယောင်နဲ့ လွဲ မှား လမ်း ချော် သွား ရင် ဒီဘဝတင်မက တစ်သံသရာလုံးမှာ ဒုက္ခရောက်ပါပြီ။ အပါယ်ငရဲဆင်းရဲတွင်းက မတက်နိုင်အောင်ကို ဖြစ်ကြရပါပြီ။

# ဝိစိကိစ္ဆာကို ပယ်ချင်ရင်

ဘုန်းကြီးတို့ပရိသတ် ဝိစိကိစ္ဆာကို ပယ်ရှားနိုင်ဖို့အတွက် -

၁။ တရားဓမ္မကို နာယူသင်ကြားဆည်းပူးပါ။
၂။ ရတနာသုံးပါးနဲ့ပတ်သက်ပြီး အဖန်ဖန်ဆွေးနွေးမေးမြန်းပါ။
၃။ အပ်-မအပ်သိအောင် ဝိနည်းကို လေ့လာပါ။
၄။ ယုံကြည်မှုသဒ္ဓါတရား ပြည့်စုံအောင်ကြိုးစားပါ။
၅။ သဒ္ဓါတရားရှိတဲ့မိတ်ဆွေများကိုပေါင်းသင်းပါ။
၆။ ရတနာသုံးပါး ဂုဏ်ကျေးဇူးနဲ့စပ်တဲ့ စကားကို ပြောပါ။

-လို့ မဟာဝဂ္ဂသံယုတ်မှာ မြတ်စွာဘုရား ဟောကြားတော်မူပါတယ်။

ဒီအချက်အလက်တွေကို ကြိုးစားဖြည့်ကျင့်သူတွေဟာ အမှန်အမှားကို ဆုံးဖြတ်နိုင်လို့ တဖြည်းဖြည်းနဲ့ ယုံမှားတွေဝေမှု၊ သံသယဖြစ်မှုတွေ ကင်းစင်သွားပါမယ်။

# တရားနာကြားသင်ယူ

ဘုရားမြတ်စွာ လောကမှာ ပွင့်ထွန်းတော်မူတဲ့ ရည်ရွယ်ချက်က သတ္တဝါတွေကို တရားဓမ္မ ဟော ကြားပြီး သံသရာ ဝဋ်ဆင်းရဲကနေ ကယ်တင်ဖို့ပါ။ သက်တော်ထင်ရှားရှိစဉ်က ဝေနေယျ သတ္တဝါတွေ ကို ၄၅-နှစ်တိုင်တိုင် ဟောကြားဆုံးမတော် မူခဲ့ပါ တယ်။ ပရိနိဗ္ဗာန် ဝင်စံတော်မူတဲ့အခါမှာ သုတ်၊ ဝိနည်း၊ အဘိဓမ္မာတရားတော်တွေကို ကိုယ်တော် စား ထားရစ်တော်မူပါတယ်။

တရားနာမှ၊ တရားတော်ကို သင်ယူမှ မြတ်စွာ ဘုရားရဲ့အဆုံးအမတွေကို သိရတာပါ။ သိမှလည်း ကျင့်စရာရှိတာတွေကို စနစ်တကျကျင့်နိုင်ပါတယ်။ ယုံမှားသံသယဝိစိကိစ္ဆာတွေ ဝင်လာတဲ့အခါ တရား နာကြားလိုက်တယ်ဆိုရင် သံသယ ကင်းသွားပါ တယ်။

ကျင့်စရာ၊ ကြံစရာတစ်ခုခုကို အသေအချာ မသိတဲ့အခါမှာ တရားတော်နဲ့ တိုက်ဆိုင်စစ်ဆေး လိုက်ရင် တိတိကျကျ သိသွားရပါတယ်။ သံသယ ရှင်းသွားပါတယ်။

## သံသယ အမှောင်ဖုံးလွှမ်း

ချွန်တရား မဂ်ဖိုလ်တရားဆိုတဲ့ ဓမ္မအလင်းရောင်ကို သံသယအမှောင်ထုကြီးက ဖုံးလွှမ်းနေမယ်ဆိုရင်လည်း တရားမမြင်တော့ဘူး။ အမှောင်ထဲမှာ စမ်းတဝါးဝါးနဲ့ဆိုတော့ ခရီးဆုံးပန်းတိုင် နိဗ္ဗာန်နဲ့ ဝေးသွားနိုင်တယ်ပေါ့။

ဒါကြောင့်မို့ မြတ်စွာဘုရားက ဝိစိကိစ္ဆာရဲ့သဘောကို ထင်ရှားအောင် ဥပမာနဲ့ ပြပါတယ်။

**"သင်္ဂါရဝပုဏ္ဏား. . . ရေထည့်ထားတဲ့ခွက်ကို အမှောင်ထဲမှာထားပြီး ငုံ့ကြည့်မယ်ဆိုရင် ကြည့်သူရဲ့အရိပ် မမြင်ရပါဘူး။ ဝိစိကိစ္ဆာအမှောင်ထု ဖုံးလွှမ်းနေရင်လည်း တရားမမြင်ဘူး။**

**သင် စာတွေ ဘယ်လိုပဲကျက်ကျက် ဝိစိကိစ္ဆာလို့ခေါ်တဲ့ အတွေးသံသယဝင်လာရင်မေ့ကုန်မှာပဲ။ ဝိစိကိစ္ဆာတွေ ကင်းနေရင်တော့ စာမမေ့ဘဲ မှတ်မိနေလိမ့်မယ်။ မမေ့မပျောက် စွဲမြဲနေလိမ့်မယ်။"**

. . လို့ သင်္ဂါရဝပုဏ္ဏားကို မိန့်တော်မူပါတယ်။

*** အမှောင်ဖုံးထား ရေခွက်အလား ထင်ရှား မမြင်ပြီ။**

ဘုန်းကြီးတို့ပရိသတ်- မြတ်စွာဘုရား ပေးတဲ့ ဥပမာက ရှင်းပါတယ်နော်။ ရေထည့်ထားတဲ့ခွက်က အမှောင်ထဲ ရောက်နေတယ်။ ရေတွေက နောက် မနေဘူး။ အမှိုက်သရိုက်တွေ ဖုံးမနေဘူး။ ရေမှော် တွေလည်း ဖုံးမနေဘူး။ ကြည်စိမ်းနေတာပဲ။

ဒါပေမယ့် မှောင်နေလို့ အလင်းရောင် မရတဲ့ အတွက် အရိပ် မထင်ပြန်ဘူး။ ငုံ့ကြည့်တဲ့သူရဲ့ မျက်နှာရိပ်ကို မမြင်ရဘူး။ ဘာမှမမြင်ရဘူး။ ဒီကြား ထဲမှာ ခွက်ထဲက ရေတွေကလည်း လှိုင်းထလှုပ်ရှား နေပြန်တယ်ဆိုတော့ ပိုဆိုးပြီပေါ့။

မသေချာ မရေရာတာတွေ မဆုံးဖြတ်နိုင်တာ တွေ သံသယတွေဖုံးအုပ်နေတဲ့အချိန်ဘယ်လောက် စာကျက်ကျက် စာမရဘူး။ ဘယ်လောက် ကြိုးစား အားထုတ်ထုတ်. . တရား မရဘူး။

## **အားမနာပါနဲ့**

ဘုန်းကြီးတို့ ခဏခဏ ပြောပါတယ်။ “တရား အားထုတ်တဲ့ ယောဂီများ နားမလည်တာ ရှိရင် သဘောမပေါက်တာရှိရင် အချိန်မရွေး လာမေးပါ”

လို့။ မရှင်းလင်းတာရှိရင် ရှင်းသွားအောင် မေးမြန်းပါ။ သဘောမပေါက်တာရှိရင် သဘောပေါက်အောင် မေးပါ။ အားမနာပါနဲ့။

မမေးမမြန်းဆိုတော့ သိတယ်၊ နားလည်တယ် ထင်ပြီး ရှင်းမပြရင် ပိုရှုပ်သွားလိမ့်မယ်။

ကိုယ် သိချင်တာရှိရင် မေးပါ။ မြုံမထားပါနဲ့။ ပွင့်ပွင့်လင်းလင်း မေးနိုင်ပါတယ်။ တရားအလုပ်က စိတ်ထဲ ရှင်းနေမှ အားထုတ်လို့ ကောင်းပါတယ်။ သဘောပေါက်နားလည်နေမှ ရှုမှတ်လို့ ကောင်းပါတယ်။

## ပယ်ရမယ့်တရားတွေ

ဘုန်းကြီးတို့ပရိသတ် အစကနေအဆုံး သုတ္တန်တစ်ခုလုံး ပြန်ပြီး ခြုံကြည့်ရအောင်။ တရား ရချင်ရင် ပယ်ရမယ့်တရားတွေသည် နီဝရဏငါးပါး။အဲဒီငါးပါးလုံး မပြောနဲ့။ တစ်ပါးပါး ဖြစ်နေရင်တောင် တရားမရဘူး။

စျာန်ရအောင် အားထုတ်လည်း စျာန်မရဘူး။ မဂ်ဖိုလ်ရအောင် အားထုတ်လည်း မဂ်ဖိုလ်မရဘူး။ နိဗ္ဗာန်ရအောင် အားထုတ်လည်း နိဗ္ဗာန်မရဘူး။

မဂ်တား ဖိုလ်တား နိဗ္ဗာန်မရအောင် တားဆီးတာသည် နီဝရဏ ငါးပါး။ တရားမရကြတဲ့ အကြောင်းရင်းသည် နီဝရဏ ငါးပါးနော်။ အားလုံး မှတ်မိအောင် လက်ာလေးတစ်ပုဒ်နဲ့ မှတ်သား လိုက်ပါ။

## * ငါးဖြာနီဝရဏ ဖုံးလွှမ်းက တရားမရနိုင်။

## တရားမရခြင်း အကြောင်းရင်း

တရားမရခြင်း အကြောင်းရင်း ငါးချက်ကို ဘုန်းကြီးတို့ ပရိသတ်များ သိကြပါပြီ။ သင်္ဂါရဝ ပုဏ္ဏားကြီးလည်း မြတ်စွာဘုရား ရှင်းလင်းဟော ကြားလို့ စာမေ့တဲ့အကြောင်း စာမမေ့တဲ့အကြောင်း တွေ သိသွားပါပြီ။

-နံပါတ်တစ်က ကာမရာဂ ကာမစ္ဆန္ဒလို့ခေါ်တဲ့ ကာမဂုဏ်တရားတွေကို လိုလားနှစ်သက်ခုံမင်တာ။

-နံပါတ်နှစ်က ဗျာပါဒ-စိတ်ဆိုးဒေါသဖြစ်တာ

-နံပါတ်သုံးက ထိနမိဒ္ဓ အိပ်ချင်ငိုက်မျဉ်းတာ။

-နံပါတ်လေးက ဥဒ္ဓစ္စ ကုက္ကုစ္စ- စိတ်တွေ ပျံ့လွင့်နေတာ ပူလောင်ညှိုးနွမ်းနေတာ။

-နံပါတ်ငါးက ဝိစိကိစ္ဆာ- ယုံမှားသံသယ စိတ်နှစ်ခွဖြစ်တာ။ အဲဒီငါးချက်ကြောင့် တရားရချင်ပါရဲ့နဲ့ တရားမရတာ။တိုးတက်အောင်မြင်သင့်ပါလျက် မတိုးတက် မအောင်မြင်တာလို့ မှတ်ပေ့ါ။

# နှစ်ပေါင်းကြာပေမယ့်

တချို့ နှစ်ပေါင်းများစွာ အားထုတ်ထားတဲ့ ယောဂီတွေကမေးကြတယ်။ "အရှင်ဘုရား-တပည့်တော်တို့ အားထုတ်တာ နှစ်ပေါင်းကြာပါပြီ။ တစ်နှစ်လည်း ဒီအတိုင်း၊ နောက်တစ်နှစ်လည်း ဒီအတိုင်း . . . ဘာမှ မထူးပါလား။ ဘာဖြစ်လို့ တရားမရတာလဲ"တဲ့။

ဘုန်းကြီးတို့ပရိသတ် သိပါပြီ။ နီဝရဏငါးမျိုး တရားဆိုးတွေကြောင့်နော်။

ကြိုးစားပမ်းစား တည်ထောင်ထားတဲ့ သမာဓိတွေ၊ ပညာတွေ နီဝရဏငါးမျိုးမှာ တစ်မျိုးမျိုး ဝင်လာရင် ပြိုကွဲသွားတယ်။ အထက်ကို ကြိုးစားတက်ရင်းတက်ရင်းနဲ့ အတော်လေးခရီးရောက်မယ် မကြံသေးဘူး။ ပြန်လျှောကျသွားတယ်။ တစ်ခါပြန် ကြိုးစားလို့ အတော်လေးဟုတ်မယ် မကြံသေးဘူး ပြန်ကျသွားတယ်။ တစ်ခါလာလည်း ဒီအတိုင်း။ တစ်ခါလာလည်း ဒီအတိုင်း ဖြစ်နေတယ်။

## ချောတိုင်တက်သလို

ဘုန်းကြီးတို့ပရိသတ် ချောတိုင်တက်တာ တွေ့ဖူးကြမှာပေါ့။ ဝါးပိုးလုံးကြီး ထောင်ထားပြီးတော့ ဝါးလုံးမှာ ဆီသုတ်၊ လှူပ်လိုက်တိုင်း ဝါးလုံးထိပ်နားမှာ ဆီယိုစီးကျလာအောင် စီစဉ်ထားတာလေ။

တိုင်ထိပ်မှာ အလံလေးစိုက်ထားတယ်။ ဝါးလုံးက ဆီတွေနဲ့ ချောနေတယ်။ချောတိုင်တက်သူတွေက ချော်နေတဲ့ကြားက ကုပ်ဖက်ပြီးတက်ရတာ။ ကုပ်ကပ်ကြိုးစားပြီး ထိပ်ဖျားရောက်အောင်တက်ရတာ။

ဝါးမှာ သုတ်ထားတဲ့ဆီက ချောတာတစ်မျိုး၊ အပေါ်က စီးကျလာတဲ့ဆီက ချောတာ တစ်မျိုးဆို တော့ ဖက်တက်ပြီး သုံးလေးပေလောက်ရောက်ရင် လျှောကျလာရော။

ဖက်တက်လိုက်၊ လျှောကျလိုက်နဲ့ အတော့်ကို မလွယ်ဘူး။ တချို့ဆို တစ်ချက် နှစ်ချက် တက်ပြီး တာနဲ့ ပြန်ကျတယ်။ တချို့အလယ်လောက်ရောက် မှ ပြန်ကျတယ်။ တချို့ဆိုရင် အသည်းယားစရာ။ အလံလေးကို ထိလုထိခင်၊ ရလုရခင်မှ ပြန်လျှော ကျတယ်။ ရယ်စရာလည်း ကောင်း၊ သနားစရာ လည်း ကောင်းပေါ့။

## ပြန်မကျစေနဲ့

တရားအားထုတ်ရင်း ချောတိုင်တက်သလိုတော့ ဘုန်းကြီးတို့ ပရိသတ် မဖြစ်စေနဲ့။ တစ်ဆင့်ချင်း တစ်ဆင့်ချင်း အသိဉာဏ်တွေ မြင့်တက်သွားအောင် ကြိုးစားပါ။

ကိုယ်က ကြိုးစားအားထုတ်လို့ အသိဉာဏ် တွေ မြင့်တက်သွားမယ် မကြံသေးဘူး။နီဝရဏက

ဝင်လာတော့ လျှောကျပြန်ရော။ ပြန်သတိကပ်ပြီး အားထုတ်လို့ ဘာမှ မကြာသေးဘူး၊ နီဝရဏက တွန်းချလိုက်လို့ တရားတွေ လျှောသွားရပြန်ရော။

ပြန်မကျစေနဲ့။ နီဝရဏတွေ မဝင်နိုင်အောင် အဆက်မပြတ် ရှုမှတ်ပါ။ ဝင်လာရင်လည်း အမြန်ဆုံး ပယ်ဖျောက်ပါ။

## သဘောပေါက်နားလည်

မြတ်စွာဘုရားက ပုဏ္ဏားကြီးကို စာမေ့တဲ့ အကြောင်း၊ စာမမေ့တဲ့အကြောင်းတွေကို စနစ်တကျ ဖြေကြားလိုက်တဲ့အခါ ပုဏ္ဏားကြီးစိတ်ထဲ ရှင်းသွားပါပြီ။ နားလည်သဘောပေါက်သွားပါပြီ။

သူ နှစ်ပေါင်းများစွာ ကြံစည်တွေးဆလို့ မရတာတွေကို မြတ်စွာဘုရားက တစ်ခဏချင်း ဖြေရှင်းပေးလိုက်တော့ သိပ်ကို ကြည်ညိုသွားတယ်။ အထင်လည်းကြီး၊ လေးလည်း လေးစားသွားတယ်။

အဲဒီတော့ “မြတ်စွာဘုရား- တပည့်တော်ကို ဒီနေ့ကစပြီး ရတနာမြတ်သုံးပါးကို ဆည်းကပ်သူ

အဖြစ် အသိအမှတ်ပြုပါ”လို့လျှောက်ထားလိုက်ပါ တယ်။

အမေးပြဿနာတွေ လာမေးတဲ့ ပုဏ္ဏားကြီး အဖြေမှန်ရသွားလို့ ကျေနပ်သွားပြီပေါ့။ ယောဂီ များလည်း ဒီလောက်ဆိုရင် “တရားမရတာ ဘာ ကြောင့်လဲ”လို့ သိနိုင်ပါပြီနော်။

## တရားနိဂုံးချုပ်

ဘုန်းကြီးတို့ပရိသတ်အတွက်က တရားမရခြင်း အကြောင်း ငါးချက်, သင်္ဂါရဝပုဏ္ဏားကြီးအတွက်က တော့ စာတွေ မမေ့ရေးအကြောင်း ငါးချက်လို့ ပြော ရမှာပါ။

ထို့အတူပါပဲ။ လောကီစီးပွားချမ်းသာ တိုးတက် ရေးအတွက် ထုတ်ဖယ်ရမှာလည်း ဒီနီဝရဏငါးပါး၊ ဘဝ အောင်မြင်ရေးရဲ့ အနှောင့်အယှက်ဆိုတာက လည်း ဒီနီဝရဏငါးပါး၊ ဘဝဒုက္ခတွေ လွတ်မြောက် ရေးအတွက် ပယ်ရှင်းရမှာလည်း ဒီနီဝရဏငါးပါး

ဖြစ်တာမို့ နီဝရဏတွေကို ကျော်လွန်အောင်၊ ပယ် ဖျောက်နိုင်အောင် ကြိုးစား အားထုတ်နိုင်ကြသဖြင့် ဒုက္ခခပ်သိမ်းငြိမ်းတဲ့ နိဗ္ဗာန်ကို လျင်မြန်စွာ မျက် မှောက် ပြုနိုင်ကြပါစေကုန်သတည်းလို့ ဆုတောင်း ရင်းနဲ့ပဲ တရားနိဂုံးချုပ်ကြစို့။

ဗောဓိယာ ပစ္စယော ဟောတု
ဣဒံ နော ပုညမင်္ဂလံ။
ပုညဘာဂံ သုလဘန္တု
ပမောဒန္တု သဒေဝကာ။

နော-မြင့်မြတ်သာကြည် ပါရမီရင့်ကြူး ဇာနည် ထူး သူတော်စင် ကုသိုလ်ရှင် အကျွန်ုပ်တို့၏၊ ဣဒံ ပုညမင်္ဂလံ- ဗုဒ္ဓဟောကြား တရားဒေသနာ မြတ် ဩဝါကို နာခံမှတ်သား ပြန်ဟောကြား၍ ပွားများ ကျင့်ကြံ ဖန်ဖန်ကြိုးကုတ် အားထုတ်ရသည့် ဤ ကုသိုလ်မင်္ဂလာသည်။

ဗောဓိယာ- သစ္စာလေးအင် ခိုင်သဇင်ကို ပြိုင် ယှဉ် ဆွတ်ခူး ထွတ်ဖူးရင့်သန် ဗောဓိဉာဏ်၏၊

ပစ္စယော- ဥပနိဿယအမှီရ၍ မုချရောက်ကြောင်း ကောင်း မြတ်သောအထောက်အပံ့သည်၊ ဟောတု- စင်စစ်မသွေ ဖြစ်ပါစေသတည်း။

ဣဒံ ပုညဘာဂဥ္စ- ဗုဒ္ဓ ဟောကြား တရား ဒေသနာမြတ်သြဝါကို နာခံမှတ်သားပြန်ဟောကြား ၍ ပွဲများကျင့်ကြံ ဖန်ဖန်ကြိုးကုတ် အားထုတ်ရ သည့် ဤကုသိုလ်မင်္ဂလာ၏ အဖို့ဘာဂကိုလည်း။ သဒေဝကာ- ကမ္ဘာမှာ နေသမျှ ဝေနေယျ များစွာ သတ္တဝါအနန္တမှန်သမျှတို့သည်၊ သုလဘန္တု-ရွှင်လန်း ကြည်မြေ့ ဝါဂွမ်းပုံ ဆီတွေ့သကဲ့သို့ ပီတိငွေ့ စိတ် မှာထုံလျက် ဣဋ္ဌာရုံ အတွေ့ထူးလို့မို့ ကြည်နူး ကိုယ်ပိုင် ရယူနိုင်ကြပါစေကုန်သတည်း။

သုလဒ္ဒါ- ကိုယ်စီကိုယ်စီ အလိုညီ၍ ကြည်သာ ရွှင်ပြုံး အားလုံး အမျှတူ ရယူကြကုန်ပြီး၍၊ ပမောဒန္တု- ကိုယ်စိတ်နှစ်ဖြာ လိုက္ကစ္ဆာဖြင့် ပြည့်ကာကြွယ် မောက် ဝမ်းမြောက်နိုင်ကြပါစေကုန်သတည်း။

ပမောဒန္တု- လူ့ပြည်တွင်မက နတ်ပြည်မှာ ဆက် နွှယ်လျက် အထက်နယ် ဗြဟ္မာချဉ်းလို့မို့ ဖြာ

သတင်း ကမ္ဘာတုန်အောင် သဒ္ဓါဟုန် လျှမ်းလျှမ်း မောက်ပြီးလျှင် ဝမ်းမြောက်ဝမ်းသာ ပတ္တနာအောင် ဆု ခါခါပြု၍ သာဓုသံ အောင်နိမိတ်ဖြင့် အောင် ဘိသိက် သွန်းလောင်းနိုင်ကြပါစေကုန်သတည်း။

သာဓု သာဓု သာဓု။

**ဓမ္မဒူတ အရှင်ပညိဿရ**
ဓမ္မာစရိယ- ဘီအေ၊ အမ်ေအေ
ဓမ္မဒူတ တောရ၊ တောင်စွန်း
ဘီးလင်းမြို့နယ်၊ မွန်ပြည်နယ်
၁၃၆၃-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း(၄)ရက်
ဖုန်း- ၀၃၅ - ၇၀၀၁၀

# "နိဂုံး"

## ရေးစ ရေးပြီးချိန်

ဤ"တရား မရခြင်း အကြောင်းရင်း"စာအုပ်ကို ၁၃၆၂-ခုနှစ်၊ ရခိုင်ပြည်နယ် ဓမ္မဒူတခရီးစဉ်အတွင်း သံတွဲမြို့ ဆံတော်တောင် တရားစခန်းရက်အတွင်း တပေါင်းလပြည့်ကျော်(၂)ရက်နေ့မှ စတင်ရေးသားဖြစ်ပါသည်။

ဟောစဉ်တရားအဖြစ် တစ်နှစ်ကျော်ကြာခဲ့ပြီးနောက် စာမူကြမ်းအဖြစ်သာ လက်ထဲတွင် ရက်ပေါင်းများစွာ သောင်တင်နေခဲ့ပါ၏။

အချိန်ရခိုက် ပြီးသမျှ ရေးထားမည်ဟု အားခဲကာ ကြိုးစားရေးသားပါသော်လည်းရခိုင်ပြည်နယ်

အတွင်း သံတွဲတရားစခန်း၊ ဂျိတ္တောတရားစခန်း၊ ကျောက်ကြီး တရားစခန်းတို့တွင် အပြီးမသတ်နိုင်ခဲ့ပါ။

သင်္ကြန်တွင်းကာလ တောင်စွန်း ဓမ္မဒူတတောရ၊ ရန်ကုန် ရှစ်မိုင် ပေါက်စေတီ၊ မြောက်ဥက္ကလာ ရွှေဥမင်တောရတို့သို့ ကူးလာခပ်ကာ ဟောပြောနေရသဖြင့် စာမရေးနိုင်တော့ပါ။

သင်္ကြန်ပြီးနောက် ဧရာဝတီတိုင်း ကျုံပျော်မြို့နယ် အင်းသောင်ကြီး တရားစခန်း၊ လားရှိုးမြို့ သာသနဟိတကာရီ သီလရှင်စာသင်တိုက် တရားစခန်း၊ တပ်ကုန်းဓမ္မဗိမာန် တရားစခန်းနှင့် ကျိုက်ထီးရိုး ရင်ပြင်တော် တရားစခန်းတို့တွင်လည်း မရေးဖြစ်တော့သဖြင့် ရခိုင်ဓမ္မဒူတ ခရီးစဉ်တွင် ရေးပြီးသမျှနှင့်သာ ရပ်နေတော့၏။

ဝါတွင်းကျပြန်တော့လည်း ၁၃၆၃-ခုနှစ် ပထမအကြိမ် ဝါတွင်းသုံးလ ရက်ပေါင်း(၉၀)တရား အားထုတ်ကျင့်ကြံသူ ယောဂီများကို တရားဟော တရားပြရပြန်၊ တစ်ဖက်ကလည်း စာသင်သား သံဃာနှင့်

သီလရှင်များကို စာပေ ပို့ချရပြန်သဖြင့် ဝါကျွတ် သည်အထိ အပြီးမသတ်နိုင်ပါ။ ပြီးလုပြီးခင်နှင့် သာ ကျေနပ်လိုက်ရပါသည်။

သီတင်းကျွတ် ပေါက်စေတီ တရားစခန်းပြီး၍ မိမိသီတင်းသုံးရာ တောင်စွန်း ဓမ္မဒူတ တောရ ကျောင်းတိုက်သို့ ပြန်ရောက်မှသာ မဖြစ်မနေ ရေး သားသဖြင့် ၁၃၆၃-ခုနှစ်၊ တန်ဆောင်မုန်း လဆန်း (၄)ရက်နေ့ ညနေတွင် နိဂုံးကမ္ပတ် အဆုံးသတ်ရပါ သည်။

## ကျေးဇူးဆပ်ပါ၏။

ဤစာအုပ် ရေးသားနိုင်ရေးအတွက် စာရွက် စာတမ်းနှင့် စာရေးကိရိယာများ လှူဒါန်းကြသော အနယ်နယ် အရပ်ရပ်မှ အလှူရှင်တို့အား လည်း ကောင်း၊ ရေးသားပြီး စာအုပ်များ စဉ်ဆက်မပြတ် ရိုက်နှိပ်ထုတ်ဝေနိုင်ရေးအတွက် ထာဝရ ဓမ္မဒါန ငွေပဒေသာပင် စိုက်ထူကာ ဓမ္မစာပေ ပြန့်ပွားရေး အတွက် လှူဒါန်းကြသော ဓမ္မဒါနအလှူရှင်တို့အား လည်းကောင်း အထူးကျေးဇူးတင်ရှိပါသည်။

လိုအပ်သမျှ ကူညီ ဆောင်ရွက်ပေးကြသော တရားစခန်းအသီးသီးမှ စခန်း ဖြစ်မြောက်ရေးအဖွဲ့ တို့အား လည်းကောင်း၊ ဝေယျာဝစ္စ ဆောင်ရွက်ပေး ကြသော ကပ္ပိယကာရကတို့အား လည်းကောင်း စာမူကြမ်းရေးသားပေးကြသောဒေါ်ဇယေသီ(မဏိ-ဇေယျာ)နှင့် မခင်ခင်စု (ရန်ကုန်)တို့အား လည်း ကောင်း အထူးကျေးဇူးတင်ပါသည်။

ဤစာအုပ် ရေးသားရသော ကောင်းမှုများဖြင့် မိမိအပေါ် ကျေးဇူးဥပကာရ အထူးရှိကြကုန်သော မိဘနှစ်ပါးနှင့် ကျေးဇူးရှင်ဆရာသမားတို့အားလည်း ကောင်း၊ ရဟန်းဒကာ၊ ဒကာမ၊ ပစ္စည်းလေးပါး ဒကာ၊ ဒကာမတို့အား လည်းကောင်း၊ ဆွေမျိုး ဉာတကာများ၊ မိတ်ဆွေသင်္ဂဟများတို့အား လည်း ကောင်း တံ့ပြန်ကာ ကျေးဇူးဆပ်ပါ၏။

## အမျှဝေပါ၏။

ဤစာအုပ်ရေးသားရသော ကောင်းမှု၏ အဖို့ ဘာဂ အမျှတို့ကို မြင့်မိုရ်စကြဝဠာ ပမာဆယ်စု နိုင်းတု မရအောင် ဗဟုပကာရ ဂုဏ်ကြီးလှသား မိဘ

နှစ်ဖြာ မြတ်ဆရာနှင့် ရာဇာသေဌ်နင်း ရောင်းရင်း ငယ်ဖော် ဆွေမျိုးတော်စပ် အရပ်နေစု စတုပစ္စယာ ဒါယကာ ဒါယိကာမ ဂေါစရဂါမ် နိယံမပြတ် နိစ္စဗဒ်ဖြင့် ယုတ်မြတ်ကြည်ဖြူ ပေးလှူတတ်စွာမြို့ ရွာပတ်ကုံး သိမ်းကျုံးလုံးစုံ နိဂုံးဇနပဒ ဝေးနီး စသည် ရှိကြထိုထို များလူဗိုလ်ပါ ကိုယ်ကို စောင့် တတ် နတ်နှင့်တကွ ဘုမ္မရုက္ခ အာကာသစိုး တန်ခိုး မဟိဒ် ပုညဇိဒ်နှင့် ဂုဏ်ဟိတ်မြင့်မား သိကြားသက္က ဝါသဝနှင့် လောကစောင့်လျင်း နတ်မင်းလေးဖြာ သာတာဂိရ ဟေမဝတ ဣန္ဒစိတ္တ စသည်တွက်ဖွဲ့ နှစ်ဆယ့်ရှစ်ဦး နတ်စစ်မှူးဟု အထူးမည်ရ အဠ- ဝီသ ယက္ခမဟာ သေနာပတိ ထိုပြိုတစ်ထွေ ရေ ပင်လယ်သွား သူတော်များအား စောင့်တတ်ငြား သည့် မဏိမေခလာ တစ်ဖြာထိုမှ ဒသ ဣသရ လောကသဟာဿိ ဝန်းပတ်ရံခြံ မဟာဗြဟ္မတို့ ပြော ဟုံဆူဆူ မိုးသူမိုးသား မြေဖွားရေပေါက် ထိုရွှေ့ လောက်တိ ထက်အောက်ဝန်းကျင် များပုံအင်အား အကြွင်းရှိသမျှ မကျန်ရအောင် ဝေငှမသွေ အမျှ အမျှ အမျှ ဝေပါသည်။ ရစေငါ့နှယ် အတူတည်း။

# တောင်းပန်တိုက်တွန်းလွှာ

ဤစာအုပ်၌ တိမ်းပါးချွတ်ချော် မလျော်ကန်ရာ အဖြာဖြာတို့ အကယ်စင်စစ် သတိလစ်ကာ ပါဝင် မိကုန်ငြားအံ့၊ ယင်းတို့ကို ပညာရှိများ အပြစ်မထား ဘဲ ပယ်ရှားနိုင်ကြပါစေကုန်သတည်း။

ဗုဒ္ဓမိန့်ဟ လမ်းစဉ်ကျသည့် အပြစ်ကင်းပ လမ်းပြ ဒေသနာ ကျင့်စရာ အဖြာဖြာတို့ကိုလည်း စိတ်မှာစွဲကပ် သတိချပ်၍ မပြတ်ပုံသေ ကျင့်ကြံနိုင် ကြပါစေကုန်သတည်း။

ယင်းသို့ ကျင့်ကြံနိုင်ကြသဖြင့် လောကီ၊ လောကုတ် မယုတ်တိုးပွား ကောင်းကျိုးချမ်းသာ အဖြာဖြာတို့ ပြည့်ကာကြွယ်မောက် ဝမ်းမြောက်နိုင် ကြပါစေကုန်သတည်း။

**ဓမ္မဒူတ အရှင်ပညိသာရ**

(ဓမ္မာစရိယ- ဘီအေ၊ အမ်အေ)

ဂဏဝါစက နာယက ကမ္မဋ္ဌာနာစရိယ

၁၃၆၃-ခုနှစ်၊ တန်ဆောင်မုန်းလဆန်း(၄)ရက်


ဓမ္မဒူတ အရှင်ပညိဿရ
(ဓမ္မာစရိယ၊ တိဘော ၊ အပ်ဘော)
တရားမရခြင်းအကြောင်းရင်း